သို့ ..............................................................

..............................................................

..............................................................

မှ ..............................................................

..............................................................

.............................................................. ၏

အမှတ်တရ ဓမ္မဒါန

**သဗ္ဗဒါနံ ဓမ္မဒါနံ ဇိနာတိ**

အလှူအားလုံးတို့တွင်
တရားအလှူသည် အမြတ်ဆုံးဖြစ်၏။

F-1A

သာသနာရေးဝန်ကြီးဌာန
သာသနာရေးဦးစီးဌာန၏ ခွင့်ပြုချက်
စာအမှတ် ၁၁၉/၀၁/(ပုံနှိပ်) သသန-၀၉ အရ
ပထမ အကြိမ်၊ ၂၀၀၉ ခုနှစ်၊စက်တင်ဘာလ၊ အုပ်ရေ-၁၀၀၀

**ကွန်ပျူတာ စာစီ**

အပြည်ပြည်ဆိုင်ရာထေရဝါဒဗုဒ္ဓသာသနာပြုတက္ကသိုလ်

**ထုတ်ဝေသူ**

အပြည်ပြည်ဆိုင်ရာထေရဝါဒဗုဒ္ဓသာသနာပြုတက္ကသိုလ်
ညွှန်ကြားရေးမှူး ဦးဘဟိန်း
မှတ်ပုံတင်အမှတ် (၀၄၃၇၂/၂၀၀၉)က ပုံနှိပ်ထုတ်ဝေသည်။



**မျက်နှာဖုံး ဒီဇိုင်း၊ အတွင်းဖလင်နှင့် ပုံနှိပ်**

NEW DAY Graphic Design Scanning, Color Separation

အမှတ်(၁၄၈)၊လမ်း (၅၀)ထက်၊ပုဇွန်တောင်မြို့နယ်၊ရန်ကုန်မြို့။
ဖုန်း-၀၁-၂၀၁၄၃၇၊ ၂၉၈၆၄၂

**စာအုပ် ရရှိနိုင်သော နေရာ**

**ဦးကံထူး (စိုးစံ) အီလက်ထရောနစ်**

အမှတ် (၁၄၂)၊ (၂၃) လမ်း
ဖုန်း-၀၁-၂၄၀၆၇၀၊ ၀၁-၅၁၃၂၄၃၊ ၀၉-၅၁၅၃၈၂၁

**ဓမ္မဇျူဟာ သာသနမာမကအဖွဲ့**

လူပုဂ္ဂိုလ်များဆိုင်ရာ ဓမ္မစာပေသင်တန်းကျောင်း
ကြားတောရလမ်း၊ ဗဟန်း၊ ရန်ကုန်မြို့။ ဖုန်း-၀၁-၃၈၀၈၈၀

# အရှင်နန္ဒမာလာဘိဝံသ
# တောင်ဝိုင်ထဲက
# ရတနာ



# အရှင်နန္ဒမာလာဘိဝံသ၏
# ထုတ်ဝေပြီး ဓမ္မစာအုပ်များ

၁။ နိဗ္ဗာန်တံခါးကြီး ဖွင့်တော်မူပါ

၂။ MRTV (4) တရားတော်များ (၃) ပုဒ်တွဲ

(က) နှစ်ဦးကာလ ဓမ္မလက်ဆောင်

(ခ) မြတ်ဗုဒ္ဓဒေသနာနှင့် ယနေ့ကမ္ဘာ

(ဂ) ယနေ့လူသားများရဲ့ မနက်ဖန်ကမ္ဘာ

၃။ ဘဝအသွင်ကို ဓမ္မအမြင်ဖြင့် ရှုကြည့်ခြင်း

၄။ ဘဝခရီးဝယ် ရွေးချယ်ရမည့်လမ်း

၅။ သူတော်ကောင်းတို့၏ စိတ်နေသဘောထား

၆။ ဘဝအရေး စိတ်အေးရလေအောင်

၇။ ဓမ္မကြေးမုံ

၈။ တောင်ပို့ထဲက ရတနာ

# အမှာစာ

သာသနာတော်နှစ် ၂၅၅၂-နှစ်၊ ကောဇာသက္က ရာဇ် ၁၃၇၀ခုနှစ်၊ နတ်တော်လဆန်း (၁၀)ရက်နေ့ ၇-၁၂-၀၈၊ ရန်ကုန်တိုင်း၊ ကျောက်တံတားမြို့နယ်၊ အမှတ် (၉) ရပ်ကွက်၊ ဗိုလ်အောင်ကျော်လမ်း၊ အမှတ်(၉)ရပ်ကွက်လုံးဆိုင်ရာ ဆွမ်းအောင်ပွဲနှင့် အပြည်ပြည်ဆိုင်ရာ အဘိဓမ္မာမဟာသိပ္ပံ၊ အဘိဓမ္မာရံပုံငွေ အထူးတရားပွဲအဖြစ်ဖြင့် ဆင်ယင် ကျင်းပသည့် ဓမ္မသဘင်အခမ်းအနားဝယ် ဟော ကြားအပ်သော **"တောင်ပို့ထဲက ရတနာ"** တရား ဒေသနာတော်။

ဤစာအုပ်သည် နှုတ်ဟောတရားကို အသံမှ စာလုံးအဖြစ် ကူးပြောင်းရေးသား၍ တည်းဖြတ်ပြင်ဆင်ထားသော စာအုပ်ဖြစ်သည်။ မဇ္ဈိမနိကာယ၌ပါရှိသော ဝမ္မိကသုတ်ကို လက်တွေ့ကျင့်သုံးနိုင်ရန် ရည်သန်လျက် ကျင့်စဉ်နှင့်ကိုက်ညီအောင် ရှင်းလင်းဟောပြထားသည်။ ဤစာအုပ်ကို ဖတ်ရှုလေ့လာပြီးနောက် မူရင်းသုတ်ကိုပါ ဖတ်ရှုလေ့လာ သင့်သည်။

ဝမ္မိကသုတ္တန်မှာ ဗြဟ္မာတစ်ဦး လာရောက်ပြောဆိုသည့် ပုံပြင်ဆန်ဆန်ဝတ္ထုနှင့် ထိုဝတ္ထုကိုအခြေခံသည့် ပဟေဠိပုစ္ဆာ ၁၅-ချက်ပါရှိပြီး အဆိုပါ ပုစ္ဆာ၁၅-ချက်ကို မြတ်ဗုဒ္ဓက ရှင်းလင်းဖြေဆိုထားပေသည်။ ပဟေဠိပုစ္ဆာ ၁၅-ချက်မှာ ဖေါ်ပြပါအချက်များနှင့် သက်ဆိုင်သည့်မေးခွန်းများ ဖြစ်သည်။

**တရားရှာ ကိုယ်မှာတွေ့** ဆိုသည့်အတိုင်း ကိုယ်ခန္ဓာဆိုသည့် တောင်ပို့ကြီးထဲမှာ ထူးခြားတဲ့ 'ဗောဓိပက္ခိယ' တရားရတနာတွေကို ရရှိအောင် အဆင့်ဆင့် တူးဖြို့ပြီး ရှာကြရမှာ ဖြစ်သည်။

ရှာတဲ့အခါ တံခါးကျည်နဲ့တူတဲ့ အဝိဇ္ဇာ၊ ဥဒ္ဓုမာယိကာ ဖားငယ်နဲ့တူတဲ့ ဒေါသတရားတို့ကို ဖယ်ရှား၊ လမ်းနှစ်သွယ်နဲ့တူတဲ့ ဝိစိကိစ္ဆာကို ကျော်ဖြတ်၊ ဆပ်ပြာရေစစ်နဲ့တူတဲ့ နီဝရဏတရား ငါးပါးတို့ကို ဟန့်တား ပယ်ဖျက်၊ လိပ်နဲ့တူတဲ့ ခန္ဓာငါးပါးပေါ်မှာ တွယ်ကပ် မနေဘဲ၊ အာရုံငါးပါးနဲ့တူတဲ့ ဓားနဲ့ စဉ်းတီတုံးကို ဖယ်ရှားပစ်ရမည်။

နောက်ဆုံး သားတစ်နဲ့တူတဲ့ အတ္တယ်အတာကို ဖယ်ရှားလိုက်နိုင်ပြီဆိုလျှင် ထူးခြားတဲ့ ဗောဓိပက္ခိယ တရားရတနာတွေကို ရရှိပိုင်ဆိုင်ကာ နိဗ္ဗာန်ချမ်းသာကို ခံစားကြရမှာ ဖြစ်တယ်ဆိုတာ ဝမ္မိကသုတ်အရ သိကြရပေသည်။

ဝမ္မိကသုတ်သည် ဝိပဿနာကျင့်စဉ်ကို ရှင်းလင်း ဖော်ပြထားသည့် သုတ်တစ်သုတ်ဖြစ်ရာ ဝိပဿနာတရား ပွားများ အားထုတ်သူတိုင်း ဖတ်ရှုလေ့လာသင့်ပေသည်။ အရှင်ကုမာရကဿပကဲ့သို့ ဝမ္မိကသုတ်ကျင့်စဉ်ဖြင့် မဂ်ဖိုလ်နိဗ္ဗာန်ကို ကိုယ်တိုင် မျက်မှောက် ပြုနိုင်ကြပါစေ။

မေ့မြအသိရှိလျက်နေမည်၊

အရှင်နန္ဒမာလာဘိဝံသ

Transcribed by Ma Ngea

# မုချ လှမည်မှတ်

■ ကိုယ့်ကျိုး-သူ့ကျိုး၊
တိုင်းပြည်ကျိုးနှင့်
အမျိုးဘာသာ၊
သာသနာအကျိုး
ပွားတိုးစေမှု၊
လုပ်ကျွေးပြုမှ
ဒို့ဘဝ၊
မုချ လှ-မည်မှတ်။

# တောင်ပို့ထဲက ရတနာ

**တောင်ပို့ထဲကရတနာ**လို့ အမည်ပေးထားတဲ့ တရားဒေသနာဟာ ဗုဒ္ဓမြတ်စွာ ကိုယ်တိုင်ဖြေဆိုဟောကြားခဲ့တဲ့ မဇ္ဈိမနိကာယ် **ဝမ္မိကသုတ်**မှာ လာရှိတဲ့ တရားဒေသနာဖြစ်တယ်။ **ဝမ္မိက**ဆိုတာ တောင်ပို့ကိုခေါ်တာ။ ဆရာနဲ့တပည့် တောင်ပို့ကြီးတူးပြီး ရတနာတွေရှာကြပုံ ဥပမာစကားကို ဖြေရှင်းဟောကြားခဲ့တာ ဖြစ်တယ်။

ဥပမာနဲ့ ရှင်းလင်းဟောကြားခဲ့တဲ့ ဒေသနာတော်တွေ ပိဋကတ်သုံးပုံမှာ မြောက်များစွာရှိတယ်။ **"ဥပမာယ မိဓေကစ္စေ အတ္ထံ ဇာနန္တိ ပဏ္ဍိတာ"** လို့ ဆိုတဲ့အတိုင်း ဥပမာနဲ့ ရှင်းပြရင် အဓိပ္ပါယ်ပိုပြီး ထင်ရှားတယ်၊ သိလွယ်တယ်။ ဒါကြောင့်မို့ ဝမ္မိကသုတ်ဆိုတာ ဥပမာကို အသုံးပြုပြီး ဟောထားတဲ့ တရားဒေသနာ တစ်ပုဒ်ဖြစ်တယ်။

သုတ္တန်တစ်ခုကို လေ့လာကြည့်မယ်ဆိုရင် ထိုသုတ္တန်ရဲ့background ကို အရင်ရှာရတယ်။ နောက်ခံ အကြောင်းရင်းက ဘာလဲ။ ဘာကြောင့် ဒီသုတ္တန်ဖြစ်ပေါ်လာသလဲ။ ဒီသုတ္တန်ကို ဟောရခြင်းရဲ့ အကျိုးကျေးဇူးရလဒ်က ဘာလဲဆိုတာတွေကို ပြည့်ပြည့်စုံစုံ လေ့လာနိုင်မယ်ဆိုရင် တရားတော်ရဲ့ အနှစ်သာရကို ပိုပြီးတော့ တွေ့ရှိနိုင်တယ်။

အဲဒီတော့ ဒီ **ဝမ္မိကသုတ္တန်** ရဲ့ နောက်ခံ background က ဘာလဲ။ နောက်ခံ background

က အံ့ဩဖွယ် ကောင်းတယ်။ ရဟန်းတော်လေး တစ်ပါးဟာ ဇေတဝန်ကျောင်းကြီးနှင့် ဆက်စပ်နေတဲ့ အန္ဓဝနခေါ်တဲ့ တောအုပ်ကြီးထဲမှာ သီတင်းသုံးနေတယ်။ ညသန်းခေါင်ကျော်အချိန်မှာ ကိုယ်ရောင်ကိုယ်ဝါ ထွန်းတောက်စွာနဲ့ ဗြဟ္မာတစ်ယောက် သူ့ထံ ရောက်လာတယ်။ အဲဒီဗြဟ္မာက ထူးဆန်းတဲ့ ပုံပြင်တစ်ခုကို ပြောသွားတယ်။ အဲဒီ ပုံပြင်ဟာ လျှို့ဝှက်တဲ့ စကားတွေနဲ့ ပဟေဠိ ဆန်နေတယ်။ ဗြဟ္မာပြောသွားတဲ့ ပုံပြင်က ဒီလိုပါ-

## ထူးဆန်းတဲ့ပုံပြင်

"ကိုယ်တော် ကိုယ်တော်တဲ့၊ ထူးဆန်းတဲ့ တောင်ပို့ကြီး တစ်ခုရှိတယ်။ အဲဒီတောင်ပို့ကြီးက ညကျရင် မီးခိုးတွေ ထွက်နေပြီး နေ့အခါကျရင် မီးအလျှံတွေ ထွက်နေတယ်။ ဒီထူးဆန်းတဲ့ တောင်ပို့ကြီးကို တွေ့ရတဲ့အခါ ဆရာတပည့်နှစ်ယောက်

တောင်ပို့ကြီးကို တူးကြည့်ဖို့ လက်နက်ကိရိယာတွေ ယူပြီး ရောက်လာကြတယ်။ ဆရာလုပ်တဲ့ပုဂ္ဂိုလ်က ပြောတယ် ‘ငါ့တပည့် ဟောဒီတောင်ပို့ကြီးကို မင်းမှာပါလာတဲ့ လက်နက်နဲ့ တူးစမ်း’ ဆိုတော့ တပည့်က တောင်ပို့ကြီးကိုတူးတယ်။ တူးဖြိုလိုက်တဲ့ အခါ ပထမဆုံးဘာတွေ့လဲဆိုတော့ တံခါးကန့်လန့် (သို့မဟုတ်) မင်းတုတ်ကို တွေ့ရတယ်တဲ့။

တပည့်ကပြောတယ် ‘ဆရာရေ **တံခါးကန့် လန့်ကြီး** တစ်ခုတွေ့တယ်’။ ‘ငါ့တပည့် အဲဒီတံခါး ကန့်လန့်ကြီးကို ဖယ်ပစ်လိုက်၊ ပြီးတော့ ရှေ့ဆက် တူး’လို့ ဆရာကပြောတယ်။ ဆက်တူးတဲ့အခါကျ တော့ **ဖားကလေး** တစ်ကောင် ဝပ်နေတာကိုတွေ့ ရတယ်။ အဲဒီ ဖားကလေးက အကောင်မကြီးဘူး၊ သေးသေးလေးရယ်။ ဒါပေမယ့် သွားထိလိုက်ရင် အဲဒီဖားကလေးက ဖောင်းဖောင်းလာတယ်။ ဖောင်း

လာတော့ အင်မတန်ကြီးတဲ့ ဖားကြီးတစ်ကောင် ဖြစ်လာတယ်။ အဲဒီ ဖားမျိုးကို ပါဠိစာပေမှာ **ဥဒ္ဓုမာယိကာဖား**လို့ ခေါ်တယ်။

တပည့်ကပြောတယ် 'ဆရာရေ ဥဒ္ဓုမာယိကာဖားတစ်ကောင် တွေ့နေပါတယ်'တဲ့၊ 'ဒါဖြင့် အဲ့ဒီဖားကို ဖယ်ထုတ်ပစ်လိုက်၊ မင်း ဆက်ပြီးတူးဦး' ဆရာက ခိုင်းတော့ တောင်ပို့ကြီးကို ဆက်ပြီး တူးလိုက်တဲ့အခါမှာ **လမ်းနှစ်သွယ်** ကို တွေ့ရတယ်။ တပည့်ကပြောတယ် 'ဆရာရေ လမ်းနှစ်သွယ်တွေ့နေပြီ' ဆိုတော့၊ ဆရာက 'အဲဒီလမ်းနှစ်သွယ်ကို တူးပစ်လိုက်ကွာ'တဲ့၊ တပည့်က ဆက်တူးပြန်တယ်။ တူးရင်းတူးရင်းနဲ့ ဆပ်ပြာချက်တဲ့နေရာမှာ အသုံးပြုတဲ့ **ဆပ်ပြာရေစစ်**ကြီးတစ်ခု တွေ့ရတယ်။ တပည့်က 'ဆရာရေ ဟောဒီမှာ ဆပ်ပြာရေစစ်ကြီး တွေ့နေပြီ'တဲ့။ ဆရာက 'အေး အဲဒီ ဆပ်ပြာရေစစ်ကြီးကို ဖယ်လိုက်ပြီး

ဆက်တူးဦး’တဲ့။ ဆက်တူးတော့ လိပ်ကြီး တစ်ကောင် တွေ့ပြန်တယ်။ တပည့်က ‘ဆရာရေ လိပ်ကြီးတစ်ကောင် တွေ့နေပါလား’ တဲ့။

‘အေး အဲဒီလိပ်ကြီးကိုလည်း ဖယ်ပစ်လိုက်ကွာ၊ ဆက်တူးဦး’ဆိုတော့ ဆက်တူးတာ ဘာတွေ့တုန်းဆို ရင် အသားငါး တင်လှီးတဲ့ သစ်တုံးတစ်တုံးနဲ့ သား လှီးဓားလေးတစ်ချောင်း တောင်ပို့ထဲရောက်နေတာ တွေ့ရတယ်။ တပည့်က ပြောတယ်၊ **‘သားလှီးဓား နဲ့ စဉ်းတီတုံး** တစ်ခုတွေ့တယ် ဆရာ’ တဲ့။ ဆရာက အဲဒါကိုဖယ်ပြီး ဆက်တူးကွာဆိုတော့ ဆက်ပြီးတူးလိုက်တဲ့အခါ **သားတစ်**တစ်ခု တွေ့ရ ပြန်တယ်။ တပည့်က ‘ဆရာရေ ဒီမှာ သားတစ်တစ်ခု လာတွေ့နေတယ်’ ဆိုတော့ ‘အေး အဲဒါကို ဖယ်ပြီး ဆက်တူးစမ်းကွာ’ လို့ပြောတယ်။ ဆက်တူးတဲ့အခါ **နဂါးကြီး တစ်ကောင်** သွားတွေ့တယ်။ တပည့်က

'ဆရာရေ ဟောဒီမှာ နဂါးကြီး တွေ့နေပြီ' ဆိုတော့ ဆရာက 'အေး ငါ့တပည့် နဂါးကြီးကို အရိုအသေ ပေးလိုက်၊ သွားမထိနဲ့၊ ဆက်မတူးနဲ့တော့' တဲ့။ တပည့်က နဂါးကြီးကို လက်အုပ်ချီ ရှိခိုးလိုက်တယ်"။

ဗြဟ္မာကြီးက အဲဒီ ပဟေဠိဆန်ဆန် ပုံပြင်ကို ပြောပြီး 'ဒီပုံပြင်ထဲမှာ ညအခါမှာ အခိုးတွေထွက်နေပြီး နေ့အခါမှာ မီးလျှံတွေ ထွက်နေတဲ့ တောင်ပို့ကြီးကို ဆရာ နဲ့တပည့် လာတူးတယ်ဆိုတဲ့ ဒီစကားရပ်တွေရဲ့ အဓိပ္ပါယ်ကို ကိုယ်တော်သိချင်ရင် မြတ်စွာဘုရားထံ သွားပြီးမေးပါတဲ့။ မြတ်စွာဘုရား အဖြေပေးတဲ့အတိုင်း မှတ်ပါ။ ကုန်ကုန် ပြောလိုက်မယ်၊ အခုပြောလိုက်တဲ့ ပဟေဠိပုစ္ဆာကို ဖြေနိုင်တဲ့ ပုဂ္ဂိုလ်ဆိုတာ ဘုရားသော်လည်းကောင်း ဘုရားရဲ့ တပည့်သား သာဝက သော်လည်းကောင်း၊ ဟောဒီ သာသနာက တရားဓမ္မကို သင်ထားတဲ့ ပုဂ္ဂိုလ်သော်လည်းကောင်း ဖြစ်ရမယ်၊ အဲဒီ ပုဂ္ဂိုလ်မျိုးမှ ဒီ

ပဟေဠိပုစ္ဆာကို အဖြေပေးနိုင်မယ် ဒီစကားတွေ ပြောပြီး ပျောက်သွားတယ်။ ဒါ ဒီသုတ္တန် ဖြစ်ပေါ်လာခြင်းရဲ့ အကြောင်းပဲ။

အဲဒီ ရဟန်းတော်လေးဟာ ထူးဆန်းတဲ့ စကားတွေကို ကြားရပြီး လာမေးသွားတဲ့ ပဟေဠိပုစ္ဆာတွေရဲ့ အဖြေတွေကို သိချင်နေတယ်။ နံနက်မိုးသောက် အလင်းရောက်တော့မှ မြတ်စွာဘုရားထံ ချဉ်းကပ်ပြီး ဟောဒီ ပဟေဠိပုစ္ဆာရဲ့ အဖြေကိုရှာရတော့မှာပဲလို့ တောင်ပို့ကြီးအကြောင်း တစ်ညလုံး စဉ်းစားရင်း နံနက်လင်းသွားခဲ့တယ်။

အဲဒီ ရဟန်းတော်လေးဟာ တခြားပုဂ္ဂိုလ်မဟုတ်ဘူး၊ အရှင်ကုမာရကဿပဖြစ်တယ်၊ အဲဒီ အရှင်ကုမာရကဿပဆိုတာ သာမန်ပုဂ္ဂိုလ်မဟုတ်ဘူး။ ပါရမီအရင့်အသန် ရှိပြီးသား ပုဂ္ဂိုလ်တစ်ပါး။ သူ့ရဲ့ဘဝဇာတ်လမ်းကလည်း တော်တော် ထူးဆန်း

တယ်လို့ ပြောရမယ်။ သူက ဘိက္ခုနီမတစ်ဦးရဲ့သား ဖြစ်တယ်။

အဲဒီ ဘိက္ခုနီမဟာ လူ့ဘဝက ပစ္စည်းဥစ္စာ ချမ်းသာတဲ့ သူဌေးသမီး တစ်ယောက်ပဲ။ သာသနာဘောင်ဝင်ချင်ပေမယ့် မိဘနှစ်ပါးက ခွင့်မပြုဘူး၊ အတင်းအိမ်ထောင်ချပေးတာ ခံလိုက်ရတယ်။ အိမ်ထောင်ကျပြီးမှ ဒီအမျိုးသမီးလေးဟာ သူ့ရဲ့ အိမ်ရှင်ယောက်ျားကို တောင်းတောင်းပန်ပန်လုပ်ပြီး သာသနာဘောင် မရအရ ဝင်ခဲ့ရတာ ဖြစ်တယ်။

အဲဒီလို သာသနာဘောင်ဝင်တဲ့အချိန်မှာ သူ့မှာ ကိုယ်ဝန်က ပါလာတယ်။ မသိဘဲနဲ့ ပါလာခဲ့တာ။ ဘိက္ခုနီမဘဝရောက်တဲ့အခါ တဖြည်းဖြည်း ဒီဇာတ်လမ်းက ပေါ်လာတော့ ရှင်ဒေဝဒတ်ရဲ့ အသင်းအပင်းဖြစ်တဲ့ ဘိက္ခုနီမတွေက ရှင်ဒေဝဒတ်ဆီ သတင်းပို့တယ်။ ရှင်ဒေဝဒတ်က မကောင်း

သတင်း ကျော်စောမှာကြောက်လို့ ဒီဘိက္ခုနီမကို လူထွက် ပေးလိုက်ကြလို့ ပြောတယ်။

ဒါပေမဲ့ ဒီဘိက္ခုနီမလေးက လူမထွက်ချင်ဘူး၊ မြတ်စွာဘုရားထံသွားပြီး ခွင့်တောင်းတယ်။ သူဟာ ဘိက္ခုနီမဝတ်လာတဲ့ အချိန်ကနေစပြီး ကိုယ်ကျင့် သီလ လုံးဝပျက်ပြားခြင်း မရှိပါဘူးလို့ လျှောက်ထား ပြောကြားတယ်။ မြတ်စွာဘုရားက ပသေနဒီ ကောသလမင်းကြီးတို့၊ အနာထပိဏ်တို့၊ ဝိသာခါ တို့ကို ဒီအမှုကိစ္စ စစ်ဆေးခိုင်းတယ်၊

ထိုအခါ ဝိသာခါက အဆုံးအဖြတ်ပေးတယ်။ ဒီ အမျိုးသမီးလေး ဘိက္ခုနီဖြစ်လာတဲ့ရက်နဲ့ ကိုယ်ဝန် ကို တွက်ချက်ကြည့်လိုက်တဲ့အခါ ဒီဘိက္ခုနီမလေးရဲ့ ကိုယ်ကျင့်တရားဟာ မပျက်ဘူး။ လူ့ဘဝကပါလာ တဲ့ ကိုယ်ဝန်ပါလို့ ဆုံးဖြတ်ချက်ချတယ်။ ဒီဘိက္ခုနီမ လေးဟာ ဘိက္ခုနီမဘဝနဲ့ ဆက်လက်နေထိုင်ခွင့်ရပြီး သားကလေးတစ်ဦး ဖွားမြင်ခဲ့တယ်။

သားကလေး ဖွားတဲ့အခါ ကလေးနဲ့ဘိက္ခုနီမ အမြင်မတော်သည့်အတွက် ကောသလမင်းကြီးက ကလေးကို နန်းတော်ခေါ်ပြီး ကျွေးမွေးစောင့်ရှောက်ထားတယ်။ ဒါကြောင့်မို့ မျိုးရိုးအမည်နာမ 'ကဿပ' ဆိုတဲ့ အမည်အပြင် မင်းသားလို့ အဓိပ္ပါယ်ရတဲ့ 'ကုမာရ' ဆိုတဲ့ အမည်ထည့်ပြီး ကုမာရကဿပ ဆိုတဲ့နာမည်နဲ့ နန်းတော်မှာ ကြီးပြင်းခဲ့ရတယ်။ နောက်ဆုံး အရှင်ကုမာရကဿပဟာ သူ့ရဲ့ဘဝဇာတ်ကြောင်းကို ကြားသိရတာနဲ့ တစ်ပြိုင်နက် သံဝေဂ ဖြစ်ပြီး သာသနာဘောင် ဝင်လာခဲ့တယ်။ 'အရှင်ကုမာရကဿပ'လို့ နာမည်ထင်ရှားတယ်ပေါ့။

## အာဇာနည် ရဟန်းတော် ၇-ပါး

အရှင်ကုမာရကဿပဟာ ကဿပမြတ်စွာဘုရားလက်ထက်က ရဟန်းတော်တစ်ပါးဖြစ်ခဲ့ဖူးတယ်၊ သာသနာနောက်ပိုင်းရောက်လာတဲ့အခါ

ကိုယ်ကျင့်တရားတွေပျက်ပြားလို့ သာသနာတော်ကြီးဟာ ကွယ်လုနီးပါးအခြေအနေ ရောက်လာတော့ ရဟန်းတော်ခုနစ်ပါးဟာ သံဝေဂကြီးစွာ ဖြစ်ကြပြီး တိုင်ပင်ကြတယ်- 'ငါ့ရှင်တို့ မကြာခင်မှာဘဲ သာသနာကွယ်တော့မည့် အနေအထားမျိုးတွေ ဖြစ်နေပြီ။ ကိုယ်ကျင့်တရား ပျက်ပြားတဲ့ပုဂ္ဂိုလ်တွေ အလွန်များလာပြီ။ သာသနာ မကွယ်ခင် တို့တတွေ အသက်စွန့်ပြီး တရားမေ့ကို ကျင့်ကြံကျိုးကုတ် အားထုတ်ကြရအောင်'လို့ တိုင်ပင်လိုက်တဲ့အခါ ခုနစ်ပါးလုံး စိတ်ဓာတ်တူညီစွာရရှိပြီး တောထဲ ထွက်လာခဲ့ကြတယ်။

အဲဒီတောထဲမှာ မြန်မာပြည်က ပုပ္ပါးတောင်ကလပ်လို တောင်မျိုးပေါ့လေ၊ မတ်မတ်စောက်စောက် ကျောက်တုံးကြီးတစ်လုံးလို တည်နေတဲ့ တောင်ပေါ်ကို လှေကားထောင်ပြီး တက်လိုက်ကြတယ်။ တောင်ပေါ်ရောက်တဲ့အခါ အကြီးဆုံး

ကိုယ်တော်ကပြောတယ်၊ 'ဒီ့ လှေကားထောင်တက်ပြီး အခု ဒီတောင်ထိပ် ရောက်နေကြပြီ။ ကိုယ်တော်တို့အားလုံး သဘောတူမယ်ဆိုရင် ဟောဒီ လှေကားကို လှဲပစ်လိုက်မယ်။ ဟောဒီတောင်ပေါ်က ပြန်ဆင်းဖို့ အခွင့်အလမ်းမရှိတော့ဘူး။ အသက်စွန့်ပြီး တရားအားထုတ်ကြမယ်၊ အားလုံးသဘောတူကြလား' တဲ့၊ အားလုံးက တူပါတယ်ဆိုပြီး သူတို့တက်လာတဲ့ လှေကားကို လှဲပစ်လိုက်ကြတယ်။

ပြီးတော့ အကြီးဆုံးကိုယ်တော်ကြီးက ဆုံးမဩဝါဒ ပေးတယ် "ငါ့ရှင်တို့ ဘုရားပွင့်တဲ့အချိန်နဲ့ ကြုံဖို့ဆိုတာ အင်မတန်မှခဲယဉ်းတယ်။ ကြုံတဲ့အချိန်မှာ ယခုလို တရားဓမ္မကို ယုံကြည်တဲ့ သဒ္ဓါတရားရှိဖို့ဆိုတာလည်း အလွန်ခဲယဉ်းတယ်ပေါ့။ မြတ်စွာဘုရား သာသနာနဲ့ကင်းပြီး တို့တတွေ ဒ
လို့ ဘာမှတန်ဖိုးရှိမှာ မဟုတ်ဘူး။ သာ

တဲ့အချိန်လေးမှာ တရားမမွ မကျင့်လိုက်ရလို့ အခွင့်ကောင်း အခါကောင်းတွေ လက်လွတ်ဆုံးရှုံးပြီး သံသရာထဲမှာ တဝဲလည်လည်နဲ့ ဆင်းရဲဒုက္ခတွေ ကြုံခဲ့ရတဲ့ ဘဝတွေ များလှပြီ။ ဒါကြောင့်မို့ ဒီဘဝမှာ သက်စွန့်ကြိုးပမ်း ကမ္မဋ္ဌာန်းတရားကို အားထုတ်ကြပါ" လို့ ဆုံးမဩဝါဒ ပေးတယ်။

အာဇာနည်ရဟန်းတော် ခုနစ်ပါးဟာ တောင်ထိပ်တက်ပြီး တရားကျင့်လိုက်ကြတာ၊ အကြီးဆုံးကိုယ်တော်က မကြာခင်အတွင်းမှာ ရဟန္တာ ဖြစ်သွားတယ်။ ရဟန္တာဖြစ်သွားတော့ တန်ခိုး ဣဒ္ဓိပါဒ်နဲ့ ဆွမ်းခံထွက်ပြီး ကျန်တဲ့ ကိုယ်တော်တွေကို ဆွမ်းကျွေးဖို့ ကြိုးစားတယ်။ သို့သော် ကျန်တဲ့ ကိုယ်တော်တွေက လက်မခံဘူး။ 'အရှင်ဘုရား၊ တပည့်တော်တို့ တရားအားထုတ်မယ်လို့လာတုန်းက ပထမဆုံး တရားထူးရတဲ့ပုဂ္ဂိုလ်က အစာရေစာရှာပြီး ကျွေးရမယ်လို့ ညှိနှိုင်းမျှင်း မချခဲ့ဘူး။ အဲဒီတော့ အရှင်ဘုရားရဲ့

အစွမ်းသတ္တိနဲ့ ရဟန္တာဖြစ်သွားတာ ဝမ်းသာပါတယ်။ အရှင်ဘုရား ခံကျွေးတဲ့ ဆွမ်းကို တပည့်တော်တို့ မစားပါဘူး'ဆိုပြီး ဆက်လက် တရားအားထုတ်ကြ တယ်။

နောက်မကြာဘူး ဒုတိယကိုယ်တော်က အနာ ဂါမ် အဆင့်ရောက်သွားတယ်။ အဲဒီကိုယ်တော်က လည်း သူ့အစွမ်းတန်ခိုးနဲ့ ဆွမ်းခံကြွလို့ ဆွမ်းခဲဖွယ် ဘောဇဉ် ချိုချဉ်ရသာတွေ ယူဆောင်လို့ ကျန်တဲ့ ညီတော်တွေကို ကျွေးဖို့လုပ်တယ်။ ဘယ်သူကမှ လက်မခံဘူး။ ကျန်တဲ့ ငါးပါးဟာ တရားထူးမရဘဲ အစာရေစာငတ်ပြတ်ပြီး တောင်ထိပ်မှာပင် ပျံလွန် တော်မူသွားခဲ့ကြတယ်။

## သူငယ်ချင်း ၅ ယောက်

ရဟန္တာဖြစ်တဲ့ ကိုယ်တော်ကတော့ ပရိနိဗ္ဗာန် စံသွားတယ်။ အနာဂါမ်ဖြစ်တဲ့ ကိုယ်တော်က ဘဝ

ဆုံးသွားတော့သုဒ္ဓါဝါသပြဟ္မာ့ဘုံမှာ ပြဟ္မာကြီး သွား ဖြစ်တယ်။ ကျန်တဲ့ငါးယောက်က သံသရာလည် လာလိုက်ကြတာ၊ ဂေါတမမြတ်စွာဘုရား လက်ထက် မှာ ဘယ်သူတွေလာဖြစ်ကြလဲဆိုတော့ တစ်ယောက် က ဂန္ဓာရတိုင်း (အခုခေတ်ဆိုရင် ပါကစ္စတန်ပေါ့) တက္ကသီလာမြို့မှာ **ဘုရင်ပုက္ကုသာတိ** ဆိုတာ လာဖြစ်တယ်။ အဲဒီ ပုက္ကုသာတိ မင်းကြီးဟာ ဗိမ္ဗိသာရမင်းကြီးထံက တရားစကားတွေ ကြားရ တာနဲ့ ထီးနန်းကိုစွန့် သက်န်းသပိတ်လွယ်ပြီး မြတ်စွာဘုရားရှိရာ လာရောက် တရားနာတယ်။ နောက်ဆုံးသူဟာ အနာဂါမ်ဖြစ်ပြီး ပြဟ္မာ့ပြည် ရောက်သွားတယ်။

နောက်တစ်ယောက်က **ဗာဟိယဒါရုစီယ** ဆို တဲ့ ပုဂ္ဂိုလ်လာဖြစ်ပြီးတော့ မြတ်စွာဘုရားထံ တရား ဟောဖို့ တောင်းပန်ရင်းကနေ ဘုရားတရားဟော

တာနာပြီး ချက်ချင်းပဲ ရဟန္တာဖြစ်သွားတယ်၊ သက်န်း မဝတ်လိုက်ရဘဲ ပရိနိဗ္ဗာန်စံသွားရတဲ့ပုဂ္ဂိုလ်။ နောက်တစ်ယောက်က **သဘိယ**ဆိုတဲ့ ပရိဗိုဇ် တစ်ယောက် လာဖြစ်တယ်။ နောက်ဆုံးမြတ်စွာ ဘုရားထံရောက်လာကာ တရားခံမွနာယူပြီး သူ လည်း ရဟန္တာဖြစ်သွားတယ်။

နောက်တစ်ယောက်က ဘယ်သူတုန်းဆိုရင် မြတ်စွာဘုရားလက်ထက်တော်မှာ မလ္လမင်းသား ဒဗ္ဗဆိုတဲ့ ကိုယ်တော်လေး လာဖြစ်တယ်။ သူလည်းပဲ ခုနစ်နှစ် အရွယ်မှာ သာသနာဝင်ပြီးတော့ ရဟန္တာ ဖြစ်သွားတယ်။ ငါးယောက်မြောက်က ဘယ်သူတုန်း ဆိုရင် အခု အရှင်ကုမာရကဿပဆိုတဲ့ ပုဂ္ဂိုလ်လာ ဖြစ်တယ်။

ကဿပမြတ်စွာဘုရားလက်ထက်က တရား ထူး တရားမြတ်ရအောင် ကျင့်ကြံကြိုးကုတ် အား

ထုတ်ခဲ့တဲ့ မိတ်ဆွေတွေ သံသရာထဲမှာ အမျိုးမျိုး အဖုံဖုံ ကွဲပြီးတော့ အခုလို ဘဝအသီးသီး ရောက်သွားခဲ့ကြတယ်။ အေး-တောင်ထိပ်တက်ပြီး တရားအားထုတ်တဲ့အထဲက အနာဂါမ် ဖြစ်ပြီးတော့ ဗြဟ္မာ့ပြည် ရောက်သွားတဲ့ ပုဂ္ဂိုလ်က သူငယ်ချင်းတွေကို လိုက်စောင့်ရှောက်တယ်။

အန္ဓဝနဆိုတဲ့ သူကန်းတောကြီးထဲမှာ အရှင်ကုမာရကဿပ နေ့မအား ညမနား ကမ္မဋ္ဌာန်းဘာဝနာပွားများ အားထုတ်နေတဲ့အချိန် သူနဲ့သင့်တော်သည့် ကမ္မဋ္ဌာန်းတရားကို နာကြားရလျှင် တရားထူး တရားမြတ်ရမှာပဲ ဆိုပြီး ညသန်းခေါင်ကျော်မှာ အရှင်ကုမာရကဿပထံလာပြီး ဟောဒီပဟေဠိစကားကို ပြောကြားသွားတာ ဖြစ်တယ်။ သူငယ်ချင်းက လာကူတာ။

ထို့အတူပဲ ဗာဟိယဒါရုစိရိယဟာလည်း အယူ

ဝါဒတွေ မှားပြီးတော့ သူကိုယ်သူ ရဟန္တာလို့ ထင်နေတာ။ ဒီဗြဟ္မာကြီးကပဲ ဆင်းလာပြီးတော့ ပြောတယ်-'ကိုယ့်လူ မင်းမှာ ရဟန္တာဖြစ်ဖို့ အကျင့်လည်း မရှိဘူး။ မင်းဟာ ရဟန္တာလည်း မဟုတ်ဘူး။ တကယ် ရဟန္တာဖြစ်ချင်လို့ရှိရင် ဂေါတမ မြတ်စွာဘုရားဆိုတာ လောကမှာပွင့်နေပြီ။ အဲဒီ ရောက်အောင်သွား' လို့ သူကလမ်းညွှန်လိုက်လို့ ဘုရားထံရောက်လာတာ။ သဘိယပရိဗိုဇ်ကြီးဟာလည်း ပရိဗိုဇ်အယူအဆတွေနဲ့ မှောက်မှောက်မှားမှား ဖြစ်နေတာ။ သူကပဲ လမ်းညွှန်လိုက်လို့ မြတ်စွာဘုရားဆီ ရောက်လာတာ။

အခု ဒီအရှင်ကုမာရကဿပ မထေရ်မြတ်ကတော့ သာသနာ့ဘောင်ဝင်လာပြီး ရဟန်းဖြစ်နေပေမယ်လို့ တရားထူး တရားမြတ် မရနိုင်သေးဘူး။ ဝိပဿနာတရား ကျင့်ကြံကြိုးကုတ် အားထုတ်နေတာ သူနဲ့သင့်တော်တဲ့ ဝိပဿနာတရားကို

အကူအညီပေးတဲ့အနေနဲ့ ဟောဒီ ပြဟ္မာကြီးကပဲ လာရောက်ပြီးတော့ ပဟေဠိပုစ္ဆာအနေနဲ့ အမေးစကားတွေကို ပြောသွားတာ။

'ကိုယ်တော် တောင်ပို့ကြီးတစ်ခုရှိတယ်' အစချီ ပြောသွားပြီး 'အဲဒီ ပဟေဠိစကားတွေကို မြတ်စွာဘုရားထံ သွားမေးပါ။ အဖြေရလို့ရှိရင် အဲဒီအဖြေဟာ ကိုယ်တော် လိုက်နာရမည့် ကမ္မဋ္ဌာန်းတရားပဲ။ မြတ်စွာဘုရားကလွဲပြီး ဒီပဟေဠိစကားကို အဖြေပေးနိုင်တဲ့ ပုဂ္ဂိုလ်မရှိဘူး'လို့ မှာကြားပြီး ပျောက်ကွယ်သွားတယ်။

ဒါနဲ့ အရှင်ကုမာရကဿပဟာ ထူးဆန်းတဲ့ ပဟေဠိစကားတွေ ယူဆောင်ပြီး မြတ်စွာဘုရားထံ လာပြီး 'အရှင်ဘုရား ညသန်းခေါင်ကျော်အချိန်က တပည့်တော်ဆီ ပြဟ္မာကြီးတစ်ဦး ရောက်လာပြီး ဒီပဟေဠိစကားကို ပြောသွားပါတယ်ဘုရား။ အဲဒီထဲ

မှာ သူပြောတဲ့ **ထူးဆန်းတဲ့တောင်ပို့ကြီး** ဆိုတာ ဘာကိုဆိုလိုပါသလဲဆိုတာကအစချီပြီး မေးလျှောက်တယ်။

မေးခွန်းပေါင်း ၁၅-ချက် ရှိတယ်ပေါ့။ ဒီမေးခွန်း ၁၅-ချက်ဟာ အရှင်ကုမာရကဿပအဖို့ တရားထူး တရားမြတ်ရစေနိုင်တဲ့ ဝိပဿနာကျင့်စဉ် ဖြစ်လာတယ်။ ထိုအခါ မြတ်စွာဘုရားက အဲဒီ မေးခွန်းပုစ္ဆာ ၁၅-ပုဒ်ကို အဖြေပေးတော်မူတယ်။

## မြတ်စွာဘုရားရဲ့ဖြေဆိုချက်

### တောင်ပို့ဆိုတာ

မြတ်စွာဘုရားက 'ချစ်သားရဟန်း တောင်ပို့ ဆိုတာ ဟောဒီ ရုပ်ခန္ဓာကြီးကို ပြောတာ'တဲ့။

ကိုယ့်ခန္ဓာကိုဉာဏ်စိုက်ပြီးတော့ ကြည့်ရအောင်၊ လူတွေရဲ့ခန္ဓာကိုယ်ဟာ တောင်ပို့ကြီးနဲ့ တူ

တယ်။ ခန္ဓာကိုယ်ကြီးကို ဘာနဲ့တည်ဆောက်ထား သလဲဆိုရင်မဟာဘုတ်လေးပါးနဲ့ တည်ဆောက် ထားတယ်။ ပထဝီလို့ခေါ်တဲ့ အတုံးအခဲတွေပါ တယ်။ အာပေါဆိုတဲ့ အရည်ပျော်နေတဲ့ သဘော တွေ စုစည်းထားတဲ့ သဘောတွေပါတယ်။ တေဇော ဆိုတဲ့ အပူငွေ့ အအေးငွေ့တွေ ပါတယ်။ ဝါယော ဆိုတဲ့လေသဘောတွေပါတယ်။ ဒါကြောင့် မြတ်စွာ ဘုရားက **'စာတုမဟာဘူတိကော အယံ ကာ ယော'** ခန္ဓာကိုယ်ကြီးဟာ ဒီမဟာဘုတ်လေးပါးနဲ့ တည်ဆောက်ထားတာ။

ဘယ်အရာကို မှီတည်ဖြစ်ပေါ်လာသလဲဆိုရင် **'မာတာပေတ္တိကသမ္ဘဝေါ'** မိခင်ဖခင်တို့ရဲ့ သုတ် သွေး အင်္ဂလိပ်လို (sprem နဲ့ ovum)ကိုမှီပြီး ဟောဒီ ရုပ်ခန္ဓာကြီးပေါ်လာတာတဲ့။ မွေးဖွားလာတဲ့အခါ မှာလည်း အစာအာဟာရတွေနဲ့ ခန္ဓာကိုယ်ကို ကြီး

ထွားစေရတယ်။ အဲဒီ ရုပ်ခန္ဓာကြီးကိုပဲ တောင်ပို့ကြီးလို့ ပြောတာပါတဲ့။

စဉ်းစားကြည့်မယ်ဆိုရင် ရုပ်ခန္ဓာကြီးဟာ တောင်ပို့ကြီးနှင့် အလားတူတယ်လေ။ ရုပ်ခန္ဓာကြီးမှာ အပေါက်တွေရှိတယ်။ မျက်စိရှိတယ်။ နားနှာခေါင်း ပါးစပ်ရှိတယ်။ ကိုးပေါက်ဒွါရ အမာဝတွေရှိပြီးတော့နေတယ်။ တကယ့်ပင် တောင်ပို့ကြီးနဲ့တူတယ်။

## ညမီးခိုး

အရှင်ကုမာရကဿပက မေးလျှောက်ပြန်တယ်-အရှင်ဘုရား အဲဒီတောင်ပို့ကြီးက ညအခါမှာ မီးခိုးတွေ ထွက်နေတယ်ဆိုတာ ဘာတုန်းဘုရား'တဲ့။

မြတ်စွာဘုရားက ဖြေတော်မူတယ်- 'အေး ညအခါ မီးခိုးထွက်တယ်ဆိုတာ လူတွေဟာ ညရောက်

ရင် နေ့မှာလုပ်ခဲ့တဲ့ အလုပ်တွေ၊ နောက်နေ့မှာ လုပ်ကိုင်ရမည့်အလုပ်တွေ၊ ပြန်ပြီး မတွေးကြဘူး လား။ ဒီကနေ့ ဘာတွေလုပ်ခဲ့တယ်၊ နက်ဖြန်ခါ ဘာလုပ်မယ်၊ သန်ဘက်ခါ ဘာလုပ်မယ်ဆိုပြီး လုပ်ခဲ့တဲ့ကိစ္စတွေ လုပ်ကိုင်ရမယ့်အလုပ်တွေကို တွေးတတ်ကြတယ်။

အဲဒီလို တွေးနေတာဟာ အခိုးတွေ ထွက်နေ တာပဲလို့ ဆိုလိုတယ်။ လူတွေဟာ အတွေးလွန်ပြီး ညအခါမှာ တစ်ခါတစ်ရံ အိပ်တောင်မပျော်ကြဘူး။ ဒြော် ဒါဟာ တောင်ပို့ထဲကမီးခိုးတွေ ထွက်နေ တာပဲတဲ့။

## နေ့မီးလျှံ

အရှင်ကုမာရကဿပက မေးလျှောက်ပြန် တယ် - 'အရှင်ဘုရား နေ့အခါမှာ မီးလျှံထွက်တယ် ဆိုတာ ဘာတုန်း ဘုရား' တဲ့။

မြတ်စွာဘုရားက-နေ့အခါမှာ မီးလျှံတွေ ထွက်တယ်ဆိုတာ ညကတွေးထားတာတွေ နေ့လယ်ကျတော့ အကောင်အထည် မဖေါ်ဘူးလား။ အေးပြောစရာရှိတာတွေ ပြောတယ်။ လုပ်စရာရှိတာတွေကိုယ်ထိလက်ရောက် လုပ်တယ်။ ညကတွေးထားပြီးနေ့လယ်ကျ အကောင်အထည်ဖေါ်တာဟာ နေ့မီးလျှံတွေ လွှတ်နေတာပဲတဲ့။

စဉ်းစားကြည့်ရင် တောင်ပို့ဆိုတာ ဘာမှ အနှစ်သာရမရှိဘဲ အပေါက်အပေါက်တွေပါတဲ့ အရာဝတ္ထုတစ်ခုပဲ။ အဲဒီထဲမှာ မီးခိုးတွေထွက်နေတယ်ဆိုတာ အလုပ်ကိစ္စတွေလုပ်ဖို့ တွေးနေတာ။ မီးလျှံတွေလွှတ်နေတယ်ဆိုတာ တွေးထားတဲ့အတိုင်း အလုပ်တွေ လုပ်နေတာ။ ကိုယ့်ဘဝ ကိုယ့်ခန္ဓာ ပြန်ကြည့်မယ်ဆိုရင် တကယ့် တောင်ပို့ကြီးပါလား။

## တောင်ပို့ထဲမှာ ရတနာရှာ

'တောင်ပို့ထဲမှာ ရတနာရှာ'ဆိုတာက ဘာကို ပြောတာတုန်းဆိုရင် **တရားရှာကိုယ်မှာတွေ့** ဆိုတဲ့အတိုင်း ဝိပဿနာတရား အားထုတ်ချင်ရင် ကိုယ့်ခန္ဓာကိုယ်ကို ပြန်ပြီး မရှုရဘူးလား။ ဒါဟာ တောင်ပို့ကြီးထဲမှာ ရတနာရှာကြည့်တာပဲ။

## ဆရာဆိုတာ

အရှင်ကုမာရကဿပက 'ဒါဖြင့်ဘုရား ဆရာ တပည့်လာကြတယ်ဆိုရာမှာ ဆရာဆိုတာ ဘယ်သူ့ ကို ပြောတာတုန်း'တဲ့။

မြတ်စွာဘုရားက-'တောင်ပို့ကို တူးဖို့လာတဲ့ ဆရာဆိုတာ ဒီတောင်ပို့ကိုတူးပြီး တောင်ပို့ထဲက ရတနာတွေ တွေ့အောင် လမ်းညွှန်မှုပေးနိုင်တဲ့သူကို ပြောတာ၊ အဲဒီပုဂ္ဂိုလ်ဟာ သာမန်ပုဂ္ဂိုလ် မဟုတ်ဘူး။ သုံးလောကထွတ်ထား မြတ်စွာဘုရားပဲဖြစ်တယ်'တဲ့။

ကြည့်လေ-လူတွေဟာ ဘ၀ရဲ့အနှစ်သာရ ရတနာကို အပြင်မှာပဲ သွားရှာနေကြတယ်။ ခန္ဓာကိုယ်ထဲမှာ မရှာကြဘူး ဟုတ်ရဲ့လား။ လူတွေ နေ့စဉ် ရွှေတွေ ငွေတွေ ပိုက်ဆံတွေ ရှာကြတယ်။ အလုပ် ရှာကြတယ်။ ပျော်စရာတွေ ရှာကြတယ်။ မရှာကြဘူးလား။ အေး အပြင်မှာရှာလို့ကတော့ အနှစ်သာရ ဘာတစ်ခုမှတွေ့မှာ မဟုတ်ဘူးတဲ့။ တကယ့် ရတနာအစစ်ကို ခန္ဓာကိုယ်ထဲမှာရှာရမယ်။ အဲဒါကြောင့်မို့ တောင်ပို့ကြီးထဲမှာ ရတနာရှာဖို့ လမ်းညွှန်မှုပြုနိုင်တဲ့ ဆရာဆိုတာ ဘုရားပဲတဲ့။

## တပည့်ဆိုတာ

အရှင်ကုမာရကဿပက - 'ဒါဖြင့် ဆရာပြောတဲ့အတိုင်း လုပ်တဲ့တပည့်ဆိုတာ ဘယ်သူတုန်း ဘုရား'လို့ ဆိုတော့ မြတ်စွာဘုရားက ဖြေတော်မူတာက-

'တပည့်ဆိုတာ ငါဘုရားဟောထားတဲ့အတိုင်း လိုက်နာကျင့်သုံးတယ်၊ ကိုယ်ကျင့်တရားကိုလည်း ဖြူစင်အောင်ကျင့်သုံးတယ်၊ သမာဓိတရားကိုလည်း ပွားများအားထုတ်တယ်၊ ပညာကိုလည်း ထက်သန်စေတယ်၊ တကယ်ကျင့်တဲ့ ယောဂီပုဂ္ဂိုလ်ကို တပည့်လို့ ခေါ်တာ'တဲ့။

ကဲ ဆရာတပည့် ဘယ်မှာအလုပ်လုပ်ကြတုန်း ဆိုတော့ တောင်ပို့ကြီးမှာ အလုပ်လုပ်ကြမယ်။ သူတို့ယူလာတဲ့ လက်နက်နဲ့ တောင်ပို့ကြီးကို စပြီးတူးကြတယ်။ဒီလိုတူးတဲ့နေရာမှာ လက်နက်ဆိုတာကို ကြည့်ရမယ်။

## လက်နက်ဆိုတာ

အရှင်ကုမာရကဿပက-'ဒါဖြင့်ဘုရား သူတို့ယူလာတဲ့ လက်နက်ဆိုတာ ဘာပြောတာတုန်း' ဆိုတော့ မြတ်စွာဘုရား ရှင်းပြတော်မူတယ်-

'ရဟန်း လက်နက်ဆိုတာ တခြားမဟုတ်ဘူး။ အသိဉာဏ်ကိုပြောတာ'တဲ့။

ရုပ်ခန္ဓာကိုယ်ဆိုတဲ့ တောင်ပို့ကြီးကိုတူးဖြိုပြီး ကြည့်ကြမယ်၊ အနှစ်သာရ ရတနာကို ရှာကြတော့မယ်ဆိုရင် နံပါတ်တစ် အရေးကြီးဆုံးက ပညာပဲ။ တောင်ပို့ကြီးကိုတူးဖြိုတဲ့အခါ လက်နက်မပါဘဲ မတူးနိုင်သလို ပညာမပါဘဲနဲ့ ဟောဒီ ရုပ်ခန္ဓာကိုယ်ကြီးရဲ့ အကြောင်းကိုသိနိုင်ပါ့မလား။ မသိနိုင်ဘူးနော်၊ ဒါကြောင့် လက်နက်ဆိုတာ တခြားအရာကို ပြောတာ မဟုတ်ဘူး၊ 'ပညာ' ကိုပြောတာတဲ့။

ပညာဆိုတာ မဂ္ဂင်ရှစ်ပါးထဲမှာ အဦးဆုံးလာတဲ့ သမ္မာဒိဋ္ဌိ (right understanding) ပဲ။ အဲဒီပညာမှ မရှိရင် ဘာမှလုပ်လို့မရဘူးတဲ့။ ကမ္မဋ္ဌာန်းတရား အားထုတ်မယ်ဆိုရင် ဘယ်လိုအားထုတ်မယ်ဆိုတဲ့ အသိက မရှိရဘူးလား။ ကမ္မဋ္ဌာန်းဆရာဆီ သွားပြီး

တော့ တရားကို ဘယ်လိုမှတ်ရမယ်။ ဘယ်လို နားလည် ရတယ်ဆိုတာ အရင်သင်ကြရတယ်နော်။ အဲဒီလို သင်ယူရတာကိုက ပညာပဲ။ အေး အဲဒီ ပညာဆိုတဲ့ လက်နက်နဲ့ တောင်ပို့ကြီးကို တူးဖျက်ပြီးတော့ ကြည့်ရမယ်။

**တူးတယ်ဆိုတာ**

ဒီတော့ အရှင်ကုမာရကဿပက မေးပြန်တယ် 'အရှင်ဘုရား တူးတယ်ဆိုတာဘာတုန်းဘုရား'တဲ့။ မြတ်စွာဘုရားက-'တူးတယ်ဆိုတာ လုံ့လဝီရိယကို ပြောတာ'လို့ ဖြေဆိုတော် မူတယ်။

လက်နက်တော့ရှိပါရဲ့၊ မတူးဘူးဆိုရင် ဘာမှဖြစ်လာမှာ မဟုတ်ဘူး၊ ပညာတော့ရှိပါရဲ့၊ မကြိုးစားဘူးဆိုရင် ရပ့်မလား။

ခန္ဓာကိုယ်ဆိုတဲ့တောင်ပို့ကြီးကို တူးဖို့ကြည့်ရန်

အသိဉာဏ်ဆိုတဲ့ လက်နက်ရှိဖို့လိုတယ်။ကြိုးပမ်းအားထုတ်မှုဝီရိယဆိုတဲ့ အလုပ်လုပ်ဖို့ လိုတယ်တဲ့။ ကမ္မဋ္ဌာန်းအားထုတ်တဲ့အခါမှာ ဝီရိယဟာအရေးပါတဲ့ အရည်အချင်းတစ်ခုဖြစ်တယ်။ ဒါကြောင့်သတိပဋ္ဌာန် တရားတော်မှာ မြတ်စွာဘုရားက ဟောထားတယ် မဟုတ်လား။ **'ကာယေ ကာယာနုပဿီ ဝိဟရတိ အာတာပီ သမ္ပဇာနော သတိမာ ဝိနေယျ လောကေ အဘိဇ္ဈာဒေါမနဿံ'**တဲ့၊

အာတာပီဆိုတာ ဝီရိယ ရှိရမယ်လို့ ပြောတာ။ ကမ္မဋ္ဌာန်းအားထုတ်တဲ့အခါ ပေါ့ပေါ့လျော့လျော့ အားထုတ်လို့မရဘူး။ ဆိုပါစို့။ အခုခေတ်မှာ ထိုင်နေတာကိုမှ ကမ္မဋ္ဌာန်းအားထုတ်တယ်လို့ ယူဆကြတယ်။ မထိုင်ရင် ကမ္မဋ္ဌာန်းမဖြစ်ဘူးလို့ ထင်နေကြတယ်။ မဟုတ်ဘူး။ ကမ္မဋ္ဌာန်းထိုင်တဲ့အခါမှာ အရေးကြီးဆုံးက စေတသိကဝီရိယဆိုတဲ့ စိတ်ထဲ

က ကြိုးပမ်းအားထုတ်မှုက ပိုအရေးကြီးတယ်။ ခန္ဓာကိုယ်အနေအထားက ဘယ်လိုပဲ နေနေ စိတ်ဓာတ်က ပြင်းပြင်းထန်ထန် ကြိုးစားနေဖို့လိုတယ်။ ခန္ဓာကိုယ်အနေနဲ့ မအိပ်မနေ လုပ်နေပါရဲ့။ စိတ်က ဟိုလွင့်ဒီလွင့်ဆိုရင် မရဘူး။

ကာယိကဝီရိယဆိုတာ ခန္ဓာကိုယ်ကလှုပ်ရှားသွားလာနေတာ။ ထိုင်တယ်ဆိုရင် စွဲစွဲမြဲမြဲနဲ့ တစ်နာရီ၊ နှစ်နာရီ ထိုင်နေတာ။ ပိုပြီးအရေးကြီးတာက စေတသိက ဝီရိယတဲ့။ စိတ်အားတွေ တွန်းပြီးထားဖို့လိုတယ်။ သမ္မာဝါယာမဆိုတဲ့ အဓိပ္ပါယ်ပါ။ အာတာပီ-လုံ့လ ဝီရိယရှိရမယ်။ မရမနေ ကြိုးပမ်းအားထုတ်တာကို ပြောတာ။ အကုသိုလ်တွေဝင်လာရင် မဝင်ရအောင်တားဆီးမယ်။ ဝင်လာရင် ဖယ်ထုတ်နိုင်အောင် ကြိုးစားရမယ်။ ကုသိုလ်စိတ်ဝင်လာလျှင် တိုးပွားအောင် လုပ်ရမယ်။ ကုသိုလ်စိတ်မဝင်လာ

လျှင် ဝင်လာအောင် ကြိုးစားရမယ်ဆိုတဲ့ သမ္မပ္ပဓာန် တရားလေးပါးနဲ့ ကြိုးစားရမယ်။

ဒီနေရာမှာ တူးတယ်ဆိုတာ ကြိုးစားပြီး ခန္ဓာကိုယ်ကို အာရုံစိုက်ထားလို့ပြောတာ။ ကြိုးစားတဲ့အခါမှာ အရမ်းလုပ်လို့မရဘူး။ ခန္ဓာကိုယ်ရဲ့ အခြေအနေ စိတ်အခြေအနေတွေကို အမြဲတမ်း နားလည်နေရမယ်။ ဒါကို သမ္ပဇာနောလို့ ခေါ်တယ်။ ပညာဉာဏ် အဆင်ခြင် ရှိနေရမယ်။

ဒါကြောင့်မို့ လက်နက်လည်းရှိရမယ်။ ကြိုးပမ်းအားထုတ်မှုလည်းရှိရမယ်။ ဆရာညွှန်ကြားတဲ့ အတိုင်း တပည့်က တောင်ပို့ကြီးကို အသိဉာဏ်ဆိုတဲ့ လက်နက်နဲ့ ကြိုးပမ်းအားထုတ်မှုဆိုတဲ့ဝီရိယ၊ ဉာဏ် နှစ်ခုပေါင်းပြီး တူးဖြိုကြည့်တာ။

လုပ်ငန်းသဘောအရပြောရရင် ဒါတရားစခန်း

ဝင်တာလို့ ပြောရမယ်၊ တောင်ပို့ဆိုတဲ့ခန္ဓာကိုယ်ကို တူးဖြိုလျှင် ပထမဆုံး လက်နက်ဖြစ်တဲ့အသိဉာဏ် ရှိရမယ်။ မရှိဘူးဆိုဆိုရင် အဝိဇ္ဇာဆိုတဲ့ အမှန်မသိတဲ့ ကန့်လန့်ကြီး ခံနေတယ်။

အဲဒါဘာလဲဆိုလျှင် ဒုက္ခဆိုတာ အမှန်မသိဘူး။ သုခလို့ထင်နေတယ်။ ဒုက္ခသမုဒယကို အမှန်မသိလို့ အကြောင်းမဲ့ သဘာသာသူဖြစ်တယ်။ သို့မဟုတ် ဘုရားသခင် ဖန်ဆင်းလို့ဖြစ်တယ်လို့ထင်တယ်။ ဒုက္ခ နိရောဓ ဒုက္ခတွေချုပ်ငြိမ်းတဲ့ နိဗ္ဗာန်ရှိတယ်ဆိုတာ အမှန်မသိလို့ ဘဝအချို့ကို နိဗ္ဗာန်လို့ ထင်နေတယ်။ ဒုက္ခနိရောဓဂါမိနီပဋိပဒါ ဒုက္ခချုပ်ရာသို့ ရောက် ကြောင်း အကျင့်ဆိုတာ မသိလို့ မိစ္ဆာအကျင့်ကို အကျင့်မှန်လို့ ထင်နေတယ်။ ဒီလိုအဝိဇ္ဇာက ရှေ့တိုး လို့မရအောင် ကန့်လန့်ချထားသလို ပိတ်ဆီးထား တာကို ပြောတာ။

တရားအားထုတ်တဲ့အခါ ရှေ့ကိုမတိုးနိုင်လျှင် ကန့်လန့်နဲ့တူတဲ့ အဝိဇ္ဇာကို ဖယ်ရှားပစ်ဖို့လိုတယ်။ ဒုက္ခကို ဒုက္ခလို့မြင်အောင် ကြိုးစားရမယ်။ ဒုက္ခဖြစ်ကြောင်း သမုဒယသစ္စာကို သမုဒယသစ္စာလို့ မြင်အောင် ကြည့်ရမယ်။ ဒါမမြင်ရင် အဝိဇ္ဇာက ဖုံးနေသေးတယ်တဲ့။ ဟုတ်ရဲ့လား။ ရတနာကို ရှာတွေ့ဖို့မဖြစ်နိုင်ဘူးတဲ့ ။ ဒါကြောင့် ဒီဥပမာပေးတာ။

တံခါး ကန့်လန့်ကြီး ဖယ်ပစ်လိုက်ဆိုတာ အမှန်မသိတဲ့ အဝိဇ္ဇာကိုဖယ်ပစ်လိုက်တာပဲ။ ဘာနဲ့ ဖယ်ရမလဲဆိုရင် အသိဉာဏ်နဲ့ဖယ်ရမယ်။ ဒုက္ခအကြောင်း ဒုက္ခသမုဒယအကြောင်း မသိသေးလျှင် သိအောင် သင်ရမယ်။ အဲဒါ ဖယ်ရှားခြင်းပဲ။

လက်တွေ့သိလာလို့ ကန့်လန့်ကြီးကို ဖယ်လိုက်တဲ့အခါ ဖားကလေး တစ်ကောင်သွားတွေ့ပြန်တယ်။

## ဖားဆိုတာ

အရှင်ကုမာရကဿပက-'အရှင်ဘုရား၊ ဖား ဆိုတာ ဘာကိုပြောတာတုန်းဘုရား' ဆိုတော့ မြတ်စွာဘုရားက 'ဖားဆိုတာ တခြားမဟုတ်ဘူး၊ ဒေါသပဲ' တဲ့။

ကမ္မဋ္ဌာန်းတရားအားထုတ်တဲ့ ယောဂီတွေ ကြည့်၊ အသိဉာဏ်နဲ့ ကြိုးပမ်းအားထုတ်မှုကြောင့် တရားမွေ့ကို အာရုံပြုနိုင်တဲ့ အနေအထားရှိလာလျှင် နာတာ ကျင်တာ ကိုက်ခဲတာ တာရှည်ထိုင်တော့ ပေါ်မလာဘူးလား။ ပေါ်လာလျှင် စိတ်ထဲမှာ ခံပြင်း တာတွေ ဖြစ်မလာဘူးလား။ အဲဒါဒီအာရုံပေါ်မှာ မုန်းတီးရွံရှာတဲ့ 'ကောဓ' လို့ခေါ်တဲ့ ဒေါသတရားဟာ ပေါ်လာတတ်တယ်။

ဒုက္ခအပေါ်မှာ ဒေါသဖြစ်တာ ခန္ဓာကိုယ်က တရားထိုင်လို့ သိပ်နာလျှင် ကြိတ်မှိတ်ခံစားရတာ။

စိတ်ထဲမှာ မကြေမချမ်းဖြစ်လျှင် ဒေါသပဲ။ ကြီးလာလေလေ ပြင်းထန်လာလေလေ။

ဒါကြောင့် ဒီ ဒေါသကို ဥဒ္ဒုမာယိကာ ဖားတဲ့၊ သွားမထိနဲ့။ ထိရင်ဖောင်းလာတယ်။ နောက်တစ်ခါထိ ပိုဖောင်းတယ်။ ထိရင်းထိရင်း နောက်ဆုံးကျ အကြီးကြီး ဖြစ်လာတယ်။ ထို့အတူ ဒေါသကလည်း လျှော့မသွား။

ဒေါသရဲ့ သဘောတရားက စိတ်ထဲမှာ အလိုမကျလျှင် ပထမဆုံး မျက်မှောင်ကြုတ်သွားတယ်။ မျက်ကျောတင်းသွားတယ်။ မကျေနပ်ဘူးဆိုရင် ပါးစပ်က လှုပ်လာတယ်။ ဒီထက် မကျေနပ်ရင် ဖားဖောင်းလာသလို ပါးစပ်က တစ်ခုခု ပြောတော့တာပဲ။ ဆဲတာလုပ်လာတယ်။ ဒါထက် မကျေနပ်ရင် ထပ် ဖောင်းလာတယ်။ တုတ်ကိုင် ဓါးကိုင်လာတယ်။ ဒီထက် မကျေနပ်လျှင် ရိုက်တယ် နှက်တယ်။ ဒေါသ

ကလည်း အဲဒီလိုပဲ။ တစ်ခါထိ ပိုပိုဖောင်းလာသလို ဒေါသဟာ အရှိန်တက်တက်လာတယ်။

ကမ္မဋ္ဌာန်းတရားအားထုတ်နေတဲ့ ပုဂ္ဂိုလ်တွေဟာ လုံ့လဝီရိယ ကြိုးပမ်းအားထုတ်ရင်း ဝီရိယဒဏ်ကို မခံနိုင်တဲ့အခါ စိတ်ထဲမှာခံပြင်းတဲ့ ဒေါသတွေဖြစ်လာတယ်။ ဒါတွေကို ကျော်လွှားနိုင်အောင် ကြိုးစား ဖယ်ရှားပစ်လိုက်။ ဒါတွေကို အာရုံမပြုဘဲ သည်းခံတဲ့စိတ် မွေးပြီး ထိုဒေါသတွေကို ဖယ်ရှားပစ်ရမယ်။ ဒုက္ခတွေလို့ ပဋိဃာနုသယ ကိန်းနေတာကို မကိန်းရအောင် ဖားနဲ့အလားတူတဲ့ ဒေါသကို ဖယ်ရှားလိုက်နိုင်ပါပြီတဲ့။ အဲဒီနောက် လမ်းနှစ်ခွကို တွေ့ရတယ်။

## လမ်းနှစ်သွယ်

အရှင်ကုမာရဿပက-'အရှင်ဘုရား၊ တောင်ပို့ကြီးထဲမှာ လမ်းနှစ်သွယ်တွေ့တယ်လို့ ပြောပါတယ်။

အဲဒီလမ်းနှစ်သွယ်ဆိုတာ ဘာကိုခေါ်တာလဲဘုရား’ ဆိုတော့ မြတ်စွာဘုရားက ‘ချစ်သားရဟန်း၊ လမ်းနှစ်သွယ်ဆိုတာ တခြားမဟုတ်ဘူး ဝိစိကိစ္ဆာကို ပြောတာ’တဲ့။

တရားအားထုတ်လာတဲ့အခါ လူတွေဟာ သမာဓိလေး နည်းနည်းရလာရင် တရားထူး တရားမြတ်ရပြီလို့ ထင်လာကြတယ်။ အဆင်မပြေတဲ့အခါ တရားအားထုတ်တာ ဟုတ်မှဟုတ်ရဲ့လား။ တကယ်ရော မဂ်ဖိုလ် နိဗ္ဗာန်ဆိုတာ ရှိရဲ့လားဆိုတဲ့ အတွေးဝင်လာတတ်ကြတယ်။ တစ်ခါတစ်ရံ သမာဓိလေး ကောင်းလာလို့ ခန္ဓာကိုယ်က အလင်းရောင်လေး ပေါ်လာရင် မဂ်တရား ဖိုလ်တရား ဆိုတာဒါပဲလို့ မှားမှား ယွင်းယွင်း စွဲလန်းသွားတာလည်း ရှိတယ်။ အဲဒီအတိုင်းဆက်သွားရင် လမ်းကြောင်း လွဲမသွားနိုင်ဘူးလား။ ဒါ့ကြောင့် တရားဓမ္မနဲ့ ပတ်သက်လို့

သံသယဝင်ပြီး လမ်းကြောင်း လွဲသွားတယ်ဆိုတာ ဝိစိကိစ္ဆာရဲ့ လက်ချက်ပဲ။

ဝိစိကိစ္ဆာဆိုတာ စဉ်းစားပေမယ့် ဆုံးဖြတ်နိုင်စွမ်းမရှိဘူး။ ဒါက မှန်ကန်တဲ့လမ်းလား၊ မမှန်ကန်တဲ့လမ်းလား၊ ဒါက တကယ့်မဂ်ပဲလား၊ ဒါက တကယ့်မဂ် မဟုတ်ဘူးလားဆိုတဲ့ စိတ်ရဲ့နှစ်ခွအတွေးတွေ ယောဂီပုဂ္ဂိုလ်မှာဝင်လာတတ်တယ်တဲ့။ အဲဒါလမ်းနှစ်သွယ်နဲ့ တူတယ်။ ဟိုဘက်လမ်း လိုက်ရမလား။ ဒီဘက်လမ်း လိုက်ရမလား၊ ဇဝေဇဝါ ဖြစ်စေတတ်တယ်။

ဝိစိကိစ္ဆာပေါ်လာလျှင် တရားမမွန်နဲ့ ပတ်သက်ပြီး ဇဝေဇဝါတွေ ဖြစ်ပေါ်စေတတ်တယ်။ ဒါ့ကြောင့် ဒါကိုလည်း ဖယ်ထုတ်ပစ်လိုက်လို့ ပြောတာ။ ဖယ်ရင် ဘယ်လိုဖယ်မလဲဆိုရင် တရားမွေကို ရှင်းရှင်းလင်းလင်း သိအောင် ဆရာသမားထံ ချဉ်းကပ်ပြီး

မေးမြန်း စုံစမ်းရတယ်။

ဘုန်းကြီးတို့ သီဟိုဠ်မှာနေတုန်းက အမျိုးသမီး တစ်ယောက်က လာမေးတယ်။ သူတရားထိုင်တုန်းက သိပ်မကြာခင်ဘဲ သမာဓိရလာတာနဲ့ တစ်ပြိုင်နက် သူ့ရဲ့အသိစိတ်တွေလည်း ချုပ်သွားတယ်။ ရုပ်ခန္ဓာ ကိုယ်ကြီးလည်း ပျောက်သွားတယ်။ နာမ်လည်း ချုပ် သွားတယ် ရုပ်လည်းချုပ်သွားတယ်။ ဘာမှမသိတော့ ဘူးတဲ့။ အဲဒါ 'နာမရူပ နိရောဓ=ရုပ်နာမ်ချုပ် သွား တာလား'လို့ သူကမေးတယ်။ အဲဒါရုပ်နာမ်ချုပ်သွား တာ မဟုတ်နိုင်ဘူး၊ အိပ်ပျော်သွားတာပဲ ဖြစ်မယ်လို့ ဘုန်းကြီးက ပြောလိုက်တယ်။

ထိနမိဒ္ဓတွေလွှမ်းပြီး အိပ်ပျော်သွားတဲ့သူဟာ ဘာမှမသိတော့ဘူး။ မဂ်ဖိုလ်နိဗ္ဗာန်ရတယ်ဆိုတဲ့ ပုဂ္ဂိုလ်က သိတယ်။ မသိတာ မဟုတ်ဘူး။ သူ့ခံစားမှု တွေ သူကိုယ်တိုင် အကုန်လုံးသိနေတယ်။ တရား

မမွှကို ရှင်းရှင်းလင်းလင်းမြင်ပြီး နေတယ်။ ဖြစ်လာတာလည်း မြင်ရတယ်။ ချုပ်သွားတာလည်း မြင်ရတယ်။ အခု သူက ဘာမှမဖြစ်တော့ဘဲ ဘာမှမရှိတော့ပဲ ချုပ်သွားတယ် ဆိုကတည်းက အိပ်ပျော်သွားတာပဲဖြစ်မှာပေါ့။ အဲဒါမျိုးတွေလည်း ကြုံတွေ့ရတတ်တယ်တဲ့။

လမ်းနှစ်ခွနဲ့တူတဲ့ ဝိစိကိစ္ဆာတွေကို ဖယ်ရှားပစ်ရမယ်တဲ့။ တရားအားထုတ်တဲ့အခါ ဒါမျိုးတွေတွေ့နိုင်တယ်လို့ပြောတာ။ ကဲ ကောင်းပြီ။ လမ်းနှစ်ခွကို ဖြတ်ကျော်ဖယ်ရှားပြီးတဲ့နောက် ဆပ်ပြာရေစစ်ကြီး တွေ့တယ်လို့ ပြောတယ်။

## ဆပ်ပြာရေစစ်ကြီး

အရှင်ကုမာရကဿပက မေးတယ်-'အရှင်ဘုရား ဆပ်ပြာရေစစ်ကြီးဆိုတာ ဘာကိုပြောတာပါလဲဘုရား' တဲ့။ မြတ်စွာဘုရားက-'ချစ်သားရဟန်း

ဆပ်ပြာရေစစ်ဆိုတာ နီဝရဏတရားငါးပါးကိုပြော တာ'တဲ့။

ကဲ တရားချစ်ခင် သူတော်စင်အပေါင်းတို့ စဉ်းစားကြည့်၊ တရားအားထုတ်တဲ့အခါမှာ နီဝရဏ တွေပေါ်လာတတ်တယ်နော်။ တရားအားထုတ်လို့ ကောင်းလာပြီ၊ 'သမာဓိရလာပြီဆိုလျှင်လည်း အဲဒီ သမာဓိအပေါ်မှာ တွယ်တာမှုဆိုတာတွေ ပေါ်လာ တတ်တယ်နော်။ အဲဒီတွယ်တာမှုက လောဘပဲ။ တရားအားထုတ်လို့ အဆင်မပြေဘူးဆိုရင် စိတ် အလိုမကျမှုတွေ ပေါ်လာတတ်တယ်။ အဲဒါက 'ဗျာပါဒ'။ အိပ်ချင်ငိုက်မြည်းတယ် စိတ်ခါတ်တွေ ဆုတ်နစ်လာတယ်ဆိုရင် 'ထိနမိဒ္ဓ'ပေါ်တာ။ စိတ် တွေက အာရုံကိုစိုက်လို့မရဘဲ လွင့်နေပြီး ဟိုတွေး ဒီတွေး ပူပန်မှုလေးတွေ ပေါ်လာတယ်ဆိုရင် 'ဥဒ္ဓစ္စကုက္ကုစ္စ' ပေါ်တာ။ သံသယတွေဝင်လာပြီ ဆိုရင် ဝိစိကိစ္ဆာ ပေါ်တာ။

အဲဒီ နီဝရဏတရား ၅-ပါး ဝင်လာလျှင်တော့ရှိ သမျှစုဆောင်းထားသမျှ အသိဉာဏ်တွေ၊ သမာဓိ စွမ်းအားတွေ၊ စိတ်စွမ်းအားတွေ၊ ကုသိုလ်တရားတွေ အားလုံးယိုထွက်သွားတယ်။ ဆပ်ပြာရေစစ်ထဲမှာ ရေ တွေလောင်းထည့်ရင် အကုန်လုံး ယိုကျမသွားပေဘူး လား။ ရေစစ်ဆိုတာ အပေါ်က ရေလောင်းလိုက် တာနဲ့တစ်ပြိုင်နက် အကုန်စစ်ထုတ်လိုက်တာ၊ ရေ တွေ အကုန်ထွက်သွားတယ်။ ရေစစ်နဲ့ခံရင် ရေတွေ တစ်စက်မှ မကျန်တော့သလိုပဲ နီဝရဏ ၅-ပါးဆိုတဲ့ အတွေးတွေ စိတ်ထဲမှာပေါ်လာလိုက်တာနဲ့ တစ်ပြိုင် နက် ကုသိုလ်တရားတွေဟာ ဘာမှမကျန်တော့ အောင် ယိုကျသွားတယ်တဲ့။

တရားအားထုတ်တဲ့အခါမှာ အင်မတန် သတိ ထားရမည့် အဟန့်အတားတွေပေါ်လာတတ်တယ် တဲ့။ ယောဂီပုဂ္ဂိုလ်တွေ အထူးသဖြင့်တရားကြာကြာ

ထိုင်ရင် အဖြစ်အများဆုံး ဆပ်ပြာရေစစ်လို့ ခေါ်ရမယ့် အဟန့်အတားကတော့ ထိနမိဒ္ဓပဲ။ ဒါကြောင့် တချို့ယောဂီတွေဆိုရင် ထိုင်ရင်း အိပ်တတ်သွားတယ်။ အိပ်ငိုက်သွားတာနဲ့တစ်ပြိုင်နက် ခုနက သမာဓိစွမ်းအားတွေရော ဘာတွေရော အကုန်လုံး ပျောက်ကွယ်သွားတယ်။ အသိပညာလည်း အားနည်းသွားတယ်။

ဒ့ါကြောင့် ဆပ်ပြာရေစစ်ဆိုတာ တခြားဟာကို ပြောတာမဟုတ်ဘူးတဲ့။ နီဝရဏတရား ၅-ပါးကို ပြောတာတဲ့။ 'ကာမစ္ဆန္ဒလောဘ'ဖြစ်တယ်။ လောဘ မဖြစ်ရင် 'ဒေါသ'ဖြစ်တယ်။ 'ထိနမိဒ္ဓ' ဖြစ်မယ်။ လွင့်ပျံ့နေတဲ့ 'ဥဒ္ဓစ္စ'။ စိတ်ထဲမှာ ပူပန်လာတဲ့ 'ကုက္ကုစ္စ'။ ကိုယ်လုပ်တာ မအောင်မြင်ဘူးဆိုရင် စိတ်ထဲမှာ အလိုမကျဖြစ်တာ 'ကုက္ကုစ္စ'ပဲ။ ဩော် ငါဒီလောက် ကြိုးစားလျက်သားနဲ့ သမာဓိတောင်

မရပါလားဆိုတဲ့အတွေး တစ်နာရီ ထိုင်တာတောင် မှပဲ တစ်မိနစ်တောင်မမိပါလား ဆိုတဲ့အတွေးနဲ့ ကြိုးစားလျက်သားနဲ့ ငါဘာလို့မရတာလဲဆိုတဲ့ အတွေးတွေ ဝင်လာလျှင် ကုက္ကုစ္စပဲ။ ငါလုပ်နေတဲ့ လမ်းစဉ်ဟာ မှန်မှ မှန်ပါ့မလား။ ဘုရားဟောခဲ့တယ် ဆိုတဲ့ နည်းလမ်းရော တကယ်ဟောခဲ့တာ ဟုတ် ပါ့မလား ဆိုတဲ့အတွေးဝင်လာရင် ဝိစိကိစ္ဆာပဲ။

အဲဒီအတွေးတွေဝင်တာနှင့် ရှိသမျှဟာတွေ အကုန်သွားပြီ။ ဆပ်ပြာရေစစ်ထဲလောင်းထည့်လျှင် ရေတွေဝေါကနဲ ထွက်သွားသလို ကုသိုလ်စိတ်တွေ အားလုံးအခြေအနေကောင်းတွေ လျှောကျသွား တယ်။ ဒါ့ကြောင့် မြတ်စွာဘုရားက ချစ်သားရဟန်း ဆပ်ပြာရေစစ်ဆိုတာ နီဝရဏတရား ၅-ပါးကို ပြောတာတဲ့။

## လိပ်ဆိုတာ

တောင်ပို့ကြီး တူးတဲ့အခါ ဆပ်ပြာရေစစ်ကို ဖယ်ပြီးနောက် လိပ်ကြီးတစ်ကောင်သွားတွေ့တယ် တဲ့။ အရှင် ကုမာရကဿပက-'လိပ်ဆိုတာ ဘာကို ဆိုလိုတာလဲဘုရား'လို့ မေးတဲ့အခါ မြတ်စွာဘုရားက ဖြေတော်မူတယ်-'လိပ်ဆိုတာ တခြားမဟုတ်ဘူး ခန္ဓာငါးပါး'တဲ့။

ဘာကြောင့်လဲဆိုတော့ လိပ်တစ်ကောင်မှာ ကြည့်၊ ခေါင်းရှိတယ်၊ ခြေထောက်နှစ်ဖက်၊ လက် နှစ်ဖက် ရှိတယ်။ အဲဒီငါးခုပေါင်းလိုက်တဲ့အခါ လိပ်ဟာ ဟိုဟို ဒီဒီ ရွေ့လျားသွားလာနိုင်တယ်၊ မဖြစ် ဘူးလား။ ခေါင်းကလည်းအပြင်ထွက်မယ်။ လက်နှစ် ဖက် ခြေနှစ်ဖက်ကလည်း အပြင်ထွက်မယ်ဆိုရင် လိပ်မှာ လှုပ်ရှားသွားလာမှုဖြစ်တယ်။ အဲဒီငါးခုကို အခွံထဲသွင်းထားကြည့်၊ လိပ်ကြီးသွားလို့ရသေးရဲ့

လား။

သတ္တဝါတွေမှာလည်း ခန္ဓာငါးပါး ပေါင်းစပ်မိလျှင် လိပ်လိုလှုပ်ရှားသွားလာလို့ရတယ်။ ရူပက္ခန္ဓာ၊ ဝေဒနက္ခန္ဓာ၊ သညက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာ၊ ဝိညာဏက္ခန္ဓာဆိုတဲ့ ဟောဒီ ခန္ဓာငါးပါး ပေါင်းစပ်လိုက်ထားတာနှင့်တစ်ပြိုင်နက် စွမ်းအားတွေရပြီး စကားပြောတယ်၊ သွားတယ်၊ လာတယ်၊ လှုပ်ရှားတယ်။ လိပ်နဲ့တူတဲ့ အဲဒီခန္ဓာငါးပါးကို တွယ်တာမနေဘဲ ဖယ်ရှားပစ်လိုက်ပါ။

မြတ်စွာဘုရားက '**ရူပံ ဘိက္ခဝေ န တုမှာကံ၊ တံ ပဇဟထ၊ တံ ဝေါ ပဟီနံ ဟိတာယ သုခါယ ဘဝိဿတိ**'။ ချစ်သားရဟန်းတို့ ရုပ်ခန္ဓာကြီးဟာ သင်တို့ဟာ မဟုတ်ဘူး။ လူတွေကထင်နေကြတယ်လေ၊ ငါ့မျက်စိ၊ ငါ့နား၊ ငါ့နှာခေါင်း၊ ငါ့ခန္ဓာကိုယ်၊ ငါ့စိတ်လို့ ထင်နေကြတယ်။ မြတ်စွာဘုရားက

**နံ တုမှာကံ**=သင်တို့ဟာမဟုတ်ဘူး။ **တံ ပဇဟ ထ**=ကိုယ့်ဟာမဟုတ်တဲ့အပေါ်မှာ တွယ်မနေနဲ့။ စွန့်လွှတ်လိုက်။ ခန္ဓာငါးပါးကို တွယ်မနေနဲ့။ လွှတ်ထားလိုက်။ လွှတ်ထားလိုက်လျှင် '**တံ ဝေါ ပဟီနံ ဟိတာယ သုခါယ ဘဝိဿတိ**= အဲဒါမှ ချမ်းသာသုခရမှာ ဖြစ်တယ်'တဲ့။ အဲဒါကြောင့် တောင်ပို့ထဲမှာ လိပ်တွေ့လျှင် ဖယ်ပစ်လိုက်ဆိုတာ ခန္ဓာငါးပါးမှာ တွယ်မနေနဲ့၊ တွယ်တာတဲ့တဏှာကို ဖယ်လိုက်တဲ့။

## သားလှီးဓားနဲ့စဉ်းတီတုံး

လိပ်ကြီးဖယ်ပြီးတော့ ဘာသွားတွေ့သလဲဆိုရင် 'သားလှီးဓါးနဲ့စဉ်းတီတုံး'တဲ့။ ဒီတော့ အရှင်ကုမာရကဿပက မေးတယ်၊ သားလှီးဓားနဲ့စဉ်းတီတုံးဆိုတာ ဘာကို ခေါ်ပါသလဲဘုရားတဲ့"တဲ့ မြတ်စွာဘုရားက ဖြေတော်မူတယ်။ သားလှီးဓားနဲ့ စဉ်းတီတုံး ဆိုတာ 'အာရုံငါးပါး ကာမဂုဏ်တရား'ကို ပြောတာ။

လူတွေဟာ ဘာနဲ့ပတ်သက်ပြီး အလှီးခံနေရသလဲဆိုရင် အာရုံငါးပါးနဲ့ပတ်သက်ပြီး အလှီးခံမနေရဘူးလား။ ကြည့်လေ-မျက်စိက နှစ်သက်စရာအာရုံတွေလိုက်ရင် လောဘဖြစ်တယ်။ နားကနှစ်သက်စရာ အသံလေးကြားလိုက်ရင်၊ နှာခေါင်းကမွှေးကြိုင်တဲ့ အနံ့လေး ရှူလိုက်ရင်၊ လျှာက ကောင်းမြတ်တဲ့အရသာလေး စားလိုက်ရရင်၊ ခန္ဓာကိုယ်ကအိစက်တဲ့ အထိအတွေလေး ထိလိုက်ရရင် 'လောဘ' ဖြစ်တယ်။

လောဘဖြစ်တယ်ဆိုကတည်းက အဲဒီလောဘဆိုတဲ့ ကိလေသာက အာရုံနဲ့ပေါင်းပြီး လူရဲ့သန္တာန်မှာရှိတဲ့ ကောင်းမြတ်တဲ့အရာတွေကို လှီးပစ်နေတာနဲ့ အတူတူပဲတဲ့။ ဒါကြောင့်မို့ လူတွေဟာ ဘယ်သူရဲ့အလှီးကို ခံနေကြရသလဲဆိုရင် အာရုံငါးပါးနှင့် ပတ်သက်လာရင် ကိလေသာရဲ့အလှီးကို ခံနေကြရတယ်လို့ပြောတာ။

မျက်စိကမြင်တဲ့ ရူပါရုံ၊ နားကကြားရတဲ့ သဒ္ဒါရုံ၊ နှာခေါင်းက နမ်းရှူရတဲ့ဂန္ဓာရုံ၊ လျှာကတွေ့ရတဲ့ ရသာရုံ၊ ခန္ဓာကိုယ်က ထိတွေ့ရတဲ့ ဖောဋ္ဌဗ္ဗာရုံဆိုတဲ့ ဒီအာရုံတွေနဲ့ အာရုံအပေါ်မှာ တွယ်တာမှုဆိုတဲ့ ကိလေသာ ဒီနှစ်ခုပေါင်းပြီးတော့ လူတွေဟာ တောက်တောက် အစဉ်းခံနေရတာဖြစ်သောကြောင့် အဲဒီနှစ်ခုဟာ စဉ်းတီတုံးနဲ့ သားလှီးဓားလိုပဲတဲ့။

အဲဒါကိုဖယ်ရှားပါဆိုတာက အာရုံငါးပါးကာမဂုဏ် တရားတွေနဲ့ပတ်သက်ပြီး ကိလေသာ အဝင်မခံပါနဲ့လို့ပြောတာ။ တရားအားထုတ်တဲ့အခါ အာရုံငါးပါးနဲ့ ပတ်သက်တဲ့ ကိလေသာတရား ကိုယ့်သန္တာန်မှာ မဖြစ်စေနဲ့ ဖြစ်ရင် ကိလေသာရဲ့အလှီးခံရမှာ သေချာတယ်။

## သားတစ်ဆိုတာ

တောင်ပို့ကြီးထဲမှာ နောက်တစ်ခု ဘာသွားတွေ့

သလဲဆိုတော့ သားတစ်တဲ့။ သားတစ်ဆိုတာ သားငါး ဈေးထဲသွားဝယ်လျှင် တုံးပြီးတစ်ပြီး အသားကို ပြောတာ။ အဲဒီသားတစ်ဆိုတာ ဘာကိုဆိုလိုတာ တုန်းဘုရားလို့ အရှင်ကုမာရကဿပက မေးတဲ့အခါ '**သားတစ်**' ဆိုတာ '**နန္ဒီရာဂ**'ကိုခေါ်တာလို့ မြတ်စွာ ဘုရားက ဖြေတော်မူတယ်။

သားတစ်နဲ့ပတ်သက်ပြီး အဓိပ္ပါယ်နှစ်မျိုးပေး ထားတယ်၊ ထင်ရှားတဲ့အဓိပ္ပါယ်တစ်ခုက သားတစ် ဆိုတာ မီးပူဒယ်အိုးထဲမှာထည့်လိုက်ရင် ထည့်တဲ့ နေရာမှာပင် ရှိကနဲ ကပ်သွားတယ်။ အဲဒီကပ်သွား သလို လူတွေရဲ့ သန္တာန်မှာ သားတစ်နဲ့ အလားတူ တာ '**နန္ဒီရာဂ**'တဲ့။ အခုခေတ်အရပြောရင် 'စူပါဂလူး' လို့ ပြောလို့ရတာပေါ့။

အာရုံတွေနဲ့တွေ့ရင် ကပ်သွားတာ တဏှာ ကြောင့်ပဲ။ **နန္ဒီရာဂ**လို့ ခေါ်တဲ့တဏှာဟာ အာရုံ

တွေပေါ်မှာနှစ်သက်တယ်၊ စွဲလမ်းတယ်၊ တဏှာ ရာဂနဲ့ယှဉ်တဲ့ စိတ်ကလေးဟာ အာရုံနှင့် တွေ့လျှင် ကပ်ကပ်ပြီးသွားတတ်တယ်။ ဒါကြောင့် သားတစ် ဆိုတာ အာရုံတွေပေါ်မှာ တွယ်တာတတ်တဲ့ '**နန္ဒီ ရာဂ တဏှာ**'ကိုပြောတာ။

ဒါကြောင့် ဓမ္မစကြာမှာ မြတ်စွာဘုရားက ဟောထားတယ်။ '**ယာယံ ပေါနောဗ္ဘဝိကာ နန္ဒီရာဂသဟ-ဂတာ**'တဲ့။ တဏှာဟာ အာရုံတွေ ပေါ်မှာ သွားသွားတွယ်တတ်တယ်လေ။ အသစ် မြင်ရင် မြင်တဲ့အပေါ်မှာ သွားတွယ်တယ်။ အသစ် နှင့်အဟောင်း တွေ့လျှင် အဟောင်းကိုပစ် အသစ် ကို သွားတွယ်ပြန်တယ်။ ဒါကြောင့်လူတွေဟာ အသစ်အသစ်ကို ရှာနေကြတာ။ အဲဒီလိုရှာတာ ဘယ်သူ့ကြောင့်လဲဆိုရင် နန္ဒီရာဂကြောင့်ပဲ။

ကမ္မဋ္ဌာန်းတရားအားထုတ်တဲ့အခါ ကာမဂုဏ်

အာရုံတွေကို ပယ်စွန့်လိုက်နိုင်တယ်။ ခုနက ဓားနှင့် စဉ်းတီတုံးနဲ့ အလားတူတဲ့ အာရုံငါးပါးနှင့် ဖယ်ရှားလိုက် နိုင်ပေမယ့် နန္ဒိရာဂဆိုတဲ့ အတွယ်အတာလေးက ကျန်နေသေးတယ်တဲ့။ ကြည့် ဘယ်ထိအောင်လိုက်သလဲဆိုရင် တရားမွေ့အားထုတ်လို့ တရားထူး တရားမြတ်ရလို့၊ သောတာပန်ပုဂ္ဂိုလ်ဖြစ်လာပြီ ဆိုပါစို့။ ဒီပုဂ္ဂိုလ်မှာလည်း သူ့ဘဝအခြေအနေလေးကို သူတွယ်တာတဲ့ စိတ်ကလေးပေါ်လာတာပဲ။

သာမန်ယောဂီပုဂ္ဂိုလ်တစ်ယောက်ပဲ ကြည့်ဦး၊ ဒီကနေ့တရားထိုင်လို့ကောင်းလိုက်တာ၊ သမာဓိတွေရလိုက်တာဆိုပြီး အဲဒီသမာဓိပေါ်မှာမတွယ်ဘူးလား။ ဒီကနေ့မှတ်လို့ ကောင်းလိုက်တာဆိုပြီး အဲ့ဒီမှတ်စိတ်ကလေးအပေါ်မှာ တွယ်တာမှုဖြစ်တာပဲ။ နောက်ထပ်ရချင်တယ်။ တရားအားထုတ်လို့ အတွေ့အကြုံသစ်ကလေးတွေ တွေ့လာပြီဆိုရင် အဲဒီ

အတွေ့အကြုံလေးကိုမျှော်မှန်းပြီး တရားအားထုတ်လေ့ရှိကြတယ်။ အဲဒါ နန္ဒီရာဂရဲ့ သဘောပဲ။

နောက်ဆုံး အနာဂါမ်ဖြစ်သွားလျှင် အနာဂါမ် ပုဂ္ဂိုလ်သည် သူ့ရဲ့ဝိပဿနာ၊ သူ့ရဲ့အသိဉာဏ်တွေ ပေါ်မှာ တွယ်တာမှုတွေရှိနေသေးတယ်။ အဲ့ဒါကို ဓမ္မရာဂလို့ ခေါ်တယ်။ တရားပေါ်မှာ တွယ်တာမှုလို့ ပြောတယ်။ သူ့ရဲ့ဝိပဿနာဉာဏ်တွေ၊ သူရထားတဲ့ တရားဓမ္မတွေပေါ်မှာ တွယ်တာတယ်။ ဓမ္မရာဂ၊ ဓမ္မနန္ဒီလို့ခေါ်တဲ့ အတွယ်အတာတွေကို မစွန့်လွှတ်နိုင်သေးသမျှ ဘယ်လိုမှ ရဟန္တာ မဖြစ်ဘူး။ ဓမ္မအပေါ်မှာ တွယ်တာမှုဆိုတာ လုံးဝစွန့်လွှတ်နိုင်ပြီဆိုတော့မှ ရဟန္တာအဖြစ်ကို ရောက်နိုင်တာ။

ဒါကြောင့်မြတ်စွာဘုရားက သားတစ်ဆိုတာ နန္ဒီရာဂကိုပြောတာတဲ့။ နောက်ဆုံးတော့ ကာမဂုဏ် အာရုံတွေကို ဖယ်လိုက်ပေမယ့် တရားဓမ္မပေါ်မှာ

သွားတွယ်ပြန်တယ်။

ဒါ့ကြောင့်မြတ်စွာဘုရားက **ကုလ္လူပမာ**-တရားဆိုတာ ဖောင်နဲ့အလားတူတယ်။ ဖောင်ဆိုတာ ဟိုဘက်ကမ်းကူးဖို့ထားတာ။ ကူးပြီးလို့ ဟိုဘက်ကမ်းရောက်တာနဲ့ တစ်ပြိုင်နက် အဲဒီဖောင်ကြီးကိုပစ်ထားလိုက်။ ထမ်းသွားစရာမလိုဘူးလို့ ဆိုလိုတယ်၊ မြတ်စွာဘုရားက "တရားဓမ္မကိုတောင် စွန့်ရသေးတာ အဓမ္မဆိုရင် ဘယ်မှာမစွန့်ဘဲနေရမလဲ"တဲ့၊ စွန့်တယ်ဆိုတာ တွယ်မနေရဘူးလို့ပြောတာ၊ ကိုယ်ရထားတဲ့တရားဓမ္မပေါ်မှာ တွယ်ကပ်မနေရဘူးလို့ပြောတာ၊ နောက်ဆုံးအဆင့် ဒီနန္ဒီရာဂကို ဖယ်ရှားပစ်လိုက်နိုင်ပြီတဲ့။

## နဂါးကြီး

ကဲ တောင်ပို့ကြီးကို အဆင့်ဆင့်တူးလိုက်ကြတာ ကိုယ်မလိုချင်တာတွေ ဖယ်ရှားပစ်ပြီး

နောက်ဆုံး နဂါးကြီးကို သွားတွေ့တယ်။ နာဂ-နဂါး ဆိုတာ တခြားဟာကို ပြောတာမဟုတ်ဘူးတဲ့။ ရဟန္တာကို ပြောတာ၊

သားတစ်နှင့်အလားတူတဲ့ တဏှာရာဂကို ဖယ်ရှားပစ်လိုက်နိုင်တာနဲ့တစ်ပြိုင်နက် ဒီပုဂ္ဂိုလ်ဟာ ရဟန္တာ ဖြစ်သွားပြီ။ ရဟန္တာကို ပါဠိစာပေမှာ **နာဂ** လို့ခေါ်တယ်၊ **အာဂုံ န ကရောတီတိ နာဂေါ** မကောင်းမှု အကုသိုလ်ကို မလုပ်တော့သူလို့ အဓိပ္ပါယ်ရတယ်။

နဂါးကို သွားမထိနဲ့ဆိုတာ အကုသိုလ်မှန်သမျှ လုံးဝကုန်သွားတဲ့ ရဟန္တာကိုသွားပြီး မပြစ်မှားနှင့်လို့ ပြောတာ။

နဂါးတွေ့လျှင် နဂါးက ထိန်းသိမ်းစောင့်ရှောက်ထားတဲ့ ရတနာရွှေငွေတွေ များစွာရှိတယ်။ နဂါးက စောင့်ရှောက်ထားတဲ့ ရတနာတွေဟာ တစ်သက်စာ

မက အင်မတန်များပြားတယ်တဲ့။ ဒါကြောင့် ရတနာတွေရယူနိုင်ရန်အတွက် နဂါးကို ရှိခိုးလိုက်လို့ပြောတာ။

ဩော်-သားတစ်ကြီးဆိုတဲ့ နန္ဒီရာဂကို ဖယ်ပြီးတာနဲ့ နာဂဆိုတဲ့ရဟန္တာဖြစ်သွားပြီလို့ပြောတာ။ ရဟန္တာဖြစ်တာနှင့် တစ်ပြိုင်နက် ဗောဓိပက္ခိယတရားရတနာတွေအားလုံး သူ့လက်ထဲ ရောက်ရှိမသွားဘူးလား။ ရဟန္တာပုဂ္ဂိုလ်ဆိုတာ ဗောဓိပက္ခိယတရား ရတနာတွေ အားလုံးပိုင်ဆိုင်သူဖြစ်တယ်။

ဝမ္မိကသုတ်ရဲ့အနှစ်ချုပ်ကတော့ တောင်ပို့ကြီးထဲမှာ ရတနာရှာတယ်ဆိုတော့ ကိုယ့်ခန္ဓာကိုယ်ထဲမှာ သတိသမ္ပဇဉ်စိုက်ပြီး ကမ္မဋ္ဌာန်းတရား အားထုတ်တာ။အားထုတ်ရာမှာ အဆင့်ဆင့်အခက်အခဲတွေကို ကျော်လွှားသွားပြီးတော့ နောက်ဆုံးမှာ တရားဓမ္မပေါ်မှာတောင် တွယ်တာတဲ့ နန္ဒီရာဂကို

ဖယ်ရှားနိုင်ရမယ်တဲ့။

အဲဒီပဟောဋ္ဌိပုစ္ဆာ ၁၅-ချက်ကို သုဒ္ဒါဝါသဘုံကလာတဲ့ ဗြဟ္မာတစ်ဦးက (သို့သော် စာထဲမှာ 'ဒေဝတာ'လို့သုံးထားတယ်)သူ့ရဲ့ မိတ်ဆွေသူငယ်ချင်းကို ကူညီတဲ့အနေနဲ့ ဒီ ပဟောဋ္ဌိပုစ္ဆာတွေကို မေးသွားတာ။ ဒီမေးခွန်းတွေရဲ့အဖြေက အရှင်ကုမာရကဿပကို သူ့ရဲ့ဝိပဿနာလုပ်ငန်းမှာ ဘာတွေလုပ်ရမယ်။ ဘာတွေဖယ်ရှားရမယ်။ ဘယ်အထိလှမ်းတက်ရမယ်ဆိုတာကို ကွက်ကွက်ကွင်းကွင်း မြင်သွားစေတယ်။

မြတ်စွာဘုရားထံမှ ပဟောဋ္ဌိပုစ္ဆာတွေကို ဖြေဆိုတဲ့ ဒီသုတ္တန်ကိုနာကြားပြီး အရှင်ကုမာရကဿပဟာ ဝိပဿနာကျင့်စဉ်ကို ဆက်လက်ကျင့်လို့ နောက်ဆုံး မှာ ရဟန္တာအရှင်မြတ်ဖြစ်သွားပါတယ်။

## နိဂုံး စကား

တရားချစ်ခင် သူတော်စင်အပေါင်းတို့သည် လည်း ဝမ္မိကသုတ္တန်မှာလာတဲ့အတိုင်း **တရားရှာ ကိုယ်မှာတွေ့** ဆိုသလို ကိုယ်ခန္ဓာဆိုတဲ့ တောင်ပို့ ကြီးထဲမှာ ထူးခြားတဲ့ **'ဗောဓိပက္ခိယ'** တရားရတနာ တွေကိုရရှိအောင် အဆင့်ဆင့် တူးဖြို့ပြီးတော့ ရှာကြ ရမှာဖြစ်တယ်။

ရှာတဲ့အခါ တံခါးကျည်နဲ့တူတဲ့ 'အဝိဇ္ဇာ'၊ ဥဒ္ဓုမာယိက ဖားငယ်နဲ့တူတဲ့ 'ဒေါသတရား'တို့ကိုဖယ်ရှားလို့၊ လမ်းနှစ်သွယ်နဲ့တူတဲ့ 'ဝိစိကိစ္ဆာ'ကိုကျော်ဖြတ်လို့ ဆပ်ပြာရေစစ်နဲ့တူတဲ့ 'နီဝရဏတရားငါးပါး'တို့ကို ဖယ်ရှားလို့၊ လိပ်နဲ့တူတဲ့ 'ခန္ဓာ ငါးပါး'ပေါ်မှာတွယ်

ကပ်ပြီးတော့ မနေဘဲ၊ 'အာရုံငါးပါး'နဲ့တူတဲ့ ဓားနဲ့ စဉ်းနှီတုံးကို ဖယ်ရှားပစ်ပြီး၊ နောက်ဆုံးသားတစ်နဲ့ တူတဲ့ 'အတွယ်အတာ'ကို ဖယ်ရှားလိုက်နိုင်ပြီဆိုလျှင် ထူးခြားတဲ့ 'ဗောဓိပက္ခိယ'ဆိုတဲ့ တရားရတနာတွေ ပြီး နိဗ္ဗာန်ချမ်းသာကို ခံစားကြရမှာဖြစ်တယ်ဆိုတာ ဝမ္မိကသုတ်အရ သိကြရပါတယ်။

ဒါကြောင့်မို့ ဗုဒ္ဓမြတ်စွာက အရှင်ကုမာရကဿပအား ဖြေကြားထားသည့်အတိုင်း မိမိတို့ကိုယ်တိုင် ဝိပဿနာကျင့်စဉ်ကို ကျင့်ကြတော့မယ်ဆိုလျှင် ယခုကဲ့သို့ တောင်ပို့ထဲမှာ ရတနာရှာကြံသလို ခန္ဓာကိုယ်ထဲမှာ ရှာကြံမယ်ဆိုရင် အခက်အခဲတွေအမျိုးမျိုးကို ဖြတ်ကျော်သွားပြီး နောက်ဆုံးမှာ ရတနာနဲ့တူတဲ့ ဗောဓိပက္ခိယတရားတွေကို ကိုယ်စီကိုယ်ငှ ပိုင်ဆိုင်ကြမှာဖြစ်တယ်လို့ ယုံကြည်ပြီး ကျင့်ကြံ ကြိုးကုတ် အားထုတ်နိုင်ကြပါစေကုန်သတည်း။

# မေတ္တာနှင့် သစ္စာ

- မိတ်ဆွေရဲ့ နှလုံးသားမှ
  ပေါက်ဖွားလာတဲ့ စိတ်ထားမျိုးကို၊ **"မေတ္တာ"**

- ပကတိသရုပ်ကို၊ မဖုံးမအုပ်ဘဲ၊
  အရှိအတိုင်း၊ ဖော်ထုတ်ပြောတာ၊ **"သစ္စာ"**

- **မေတ္တာနဲ့ သစ္စာ**ဟာ
  အလွန် အစွမ်းထက်တဲ့ မန္တာန် ဖြစ်တယ်။

- အန္တရာယ်ကင်း၊ ပရိတ်တရားတော်တွေဟာ
  အများအားဖြင့်၊ မေတ္တာနဲ့ သစ္စာစွမ်းအားကို
  အသုံးပြုထားတာ ဖြစ်တယ်။